## Aung Phyo Myat Co., Ltd. မှ ငါးတင်/ချ ဆိပ်ခံ တံတား နှင့် ငါးဈေး တည်ဆောက်ခြင်း လုပ်ငန်းအား ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၈-၂-၂၀၁၆ | | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁-၃-၂၀၁၆ | ၁၃-၃-၂၀၁၆ | |
| | (ခ) သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁-၃-၂၀၁၆ | ၁၈-၃-၂၀၁၆ | |
| | (ဂ) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန | ၁-၃-၂၀၁၆ | ၂၀-၃-၂၀၁၆ | |
| ၃။ | PAT အစည်းအဝေး (၉/၂၀၁၆) (၂၉-၂-၂၀၁၆)သို့ တင်ပြခြင်း | ၂၉-၂-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၁၀-၃-၂၀၁၆ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်အရ ဝန်ခံကတိပေးပို့ခြင်း | ၁၃-၆-၂၀၁၆ | | |
| ၆။ | PAT အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဌာနမှ ပြင်ဆင်တင်ပြခြင်း | ၂၄-၃-၂၀၁၆ | | |
| ၇။ | ကုမ္ပဏီမှအဆိုပြုလွှာ(၉)စုံ ပြန်လည်ပေးပို့ခြင်း | ၁၀-၅-၂၀၁၆ | | |
| ၈။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | (၁၃/၂၀၁၆) | | |
| ၉။ | **စုစုပေါင်းကြာမြင့်ရက်** | **၁၃၂ ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Aung Phyo Myat Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - ငါးတင်/ချ ဆိပ်ခံ တံတား နှင့် ငါးဈေး တည်ဆောက်ခြင်း လုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်(ကြို့ကုန်း)ရှိ ငါးလုပ်ငန်း ဦးစီးဌာန ပိုင်၊ မြေကွက်အမှတ်(၃)၊ မြေ ၂.၀၆ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄၅၀၀ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦးနှစ် (၅၀)နှင့် (၁၀)နှစ် (၂) ကြိမ် |
| အရင်းကြေကာလ | - (၅) နှစ် (၆)လ |
| IRR | - ၁၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကိုအောက်ပါ ဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ၀န်ထမ်းလစာ | ၃.၀၀ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | |
| ၄ | ၀င်ငွေခွန် | ၁၀၉၂.၉၉ | ၁၅၃၀.၁၈ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၀၅၁.၂၀ |
| ၆ | မြေငှားရမ်းခ | | ၄၉.၃၅ |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | ၃၈.၅၀ |
| ၈ | လုပ်ခလစာအပေါ်၀င်ငွေခွန် | | ၁၁.၅၅ |
| ၉ | CSR (၂%) | | ၁၃၄.၀၀ |
| | | | ပြည်တွင်း ၀န်ထမ်း (၂၁၃) ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | **စုစုပေါင်း** | ၁၀၉၅.၉၉ | ၂၈၁၅.၉၅ |
| | Cost : Benefit | ၁ : ၃ | |

## Aung Phyo Myat Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန် မြို့နယ်(ကြို့ကုန်း)ရှိ ငါးလုပ်ငန်းဦးစီးဌာန ပိုင် မြေနေရာတွင် ငါးတင်/ချ ဆိပ်ခံ တံတား နှင့် ငါးဈေး တည်ဆောက်ခြင်း လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Aung Phyo Myat Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးမောင်မောင်စိုး |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ခေတ်မီ ငါးတင်/ချ ဆိပ်ခံတံတား နှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်း |
| ၄။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၅။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်(ကြို့ကုန်း)ရှိ စိုက်ပျိုးရေး မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေကွက်အမှတ်(၃)၊ မြေ ၂.၀၆ ဧက |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - **ကျပ် ၄၅၀၀ သန်း** |
| | **ငွေပမာဏ** | - **ကျပ် ၄၇၄ သန်း** |
| | **အဆောက်အဦ** | - **ကျပ် ၄၀၂၆ သန်း** |
| | - ရေငန်တံတားတည်ဆောက်ခြင်း | ကျပ် ၁၉၂၅ သန်း |
| | - ရေချိုတံတားတည်ဆောက်ခြင်း | ကျပ် ၆၂၃ သန်း |
| | - ငါးဈေးရုံ (၅)ရုံ ပိုင်တိုင်အုတ်မြစ်နှင့် ကွန်ကရစ်မြေထိန်းနံရံတည်ဆောက်ခြင်း | ကျပ် ၂၆၈ သန်း |
| | - သံကူကွန်ကရစ်မြေထိန်းနံရံတည်ဆောက်ခြင်း | ကျပ် ၄၀၇ သန်း |
| | - နှစ်ထပ်ခွဲရုံ၊ ပိုင်တိုင်အုတ်မြစ်နှင့် ကွန်ကရစ် ကြမ်းခင်းပြုလုပ်ခြင်း | ကျပ် ၁၁၆ သန်း |
| | - MICA စီမံကိန်းကွန်ကရစ်လမ်းခင်းခြင်း | ကျပ် ၁၇၉ သန်း |
| | - ကွန်ကရစ်ရေကန်(၂)ကန် ပြုလုပ်ခြင်း | ကျပ် ၁၆ သန်း |
| | - ဈေးရုံပတ်လည်ရေမြောင်း၊ အဝင်လမ်း ရေမြောင်းနှင့် ဘေးရေမြောင်းပြုလုပ်ခြင်း | ကျပ် ၅၆ သန်း |
| | - ကားရပ်နားရန်ကွန်ကရစ်လွင်ပြင် | ကျပ် ၈၈ သန်း |
| | - ခြံစည်းရိုး (အုတ်+ သံပန်း) | ကျပ် ၁၇ သန်း |
| | - မြေပြုပြင်ခြင်း၊ သဲအိတ်တာဘောင်များ ပြုလုပ်ခြင်း | ကျပ် ၃၉ သန်း |
| | - ယာယီကမ်းထိန်းခြင်း | ကျပ် ၇၅ သန်း |

| | | |
|---|---|---|
| | - မျောတိုင်ရိုက်ခြင်း | ကျပ် ၉၃ သန်း |
| | - ယာဉ်၊ ယန္တရားအသုံးပြုခြင်း | ကျပ် ၇၄ သန်း |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၅၀ သန်း |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး (၅၀)နှစ် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် |
| ၈။ | တည်ဆောက်ရေးကာလ | -(၃) နှစ် |
| | ပဏာမစူးစမ်းမှု ပြုလုပ်မည့်ကာလ | - ၁၂ လ |
| ၉။ | ဝန်ဆောင်နိုင်မှု (၆ နှစ်မြောက်) | |

| စဥ် | ဝန်ဆောင်နိုင်မှု | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|
| ၁။ | **ဆိပ်ခံတံတားအတွက် ကမ်းကပ်ခ ဝင်ငွေ** (ဆိပ်ခံတံတားသို့ဆိုက်ကပ်လှေ၁၀၀ စီး၏ငါး၊ ပုစွန်ရောင်းရငွေအပေါ် ကုမ္ပဏီမှ(၃.၅)%ရရှိမည်ဖြစ်ပါသည်) | ၁၆၈၀.၀၀ |
| ၂။ | **ငါးဈေးဆိုင်ခန်းငှားရမ်းခ** | ၇၂.၀၀ |
| | **စုစုပေါင်း** | **၁၇၅၂.၀၀** |

| | | |
|---|---|---|
| ၁၀။ | ဝင်ငွေ (၆) နှစ်မြောက် | - ကျပ် ၁၇၅၂.၀၀ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၀၈၂.၀၂ သန်း |
| | အသားတင်အမြတ် | - ကျပ် ၆၆၉.၉၈ သန်း |
| ၁၁။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၂၂၃.၃၃ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၈၇.၆၀ သန်း |
| ၁၂။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၂၁၃ ဦး (အနိမ့်ဆုံး ဝန်ထမ်းလစာမှာ ကျပ် ၁၂၀၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ကျပ် ၆၀၀၀၀၀ ဖြစ်ပါသည်။) |
| ၁၃။ | အရင်းကြေကာလ | - ၅ နှစ် နှင့် ၆ လ |
| ၁၄။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၈ % |
| ၁၅။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထားအဖြစ် Aung Phyo Myat Co., Ltd. အမည်ဖြင့် Myanma APEX Bank Ltd. (Thein Phyu Branch) တွင် (၃-၂-၂၀၁၆) ရက်နေ့၌ ငွေကျပ် ၁,၁၀၀, ၅၀၅, ၉၁၂.၉၁ ရှိကြောင်း တင်ပြ ထားပါသည်။ |
| ၁၆။ | စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တင်ပြချက် | - ဝန်ကြီးဌာနနှင့် ဆက်စပ်မှုရှိသော ပုဂ္ဂလိက လုပ်ငန်းရှင်/ ကုမ္ပဏီ အဖွဲ့အစည်းများနှင့် အကျိုးတူ ပူးပေါင်း ဆောင်ရွက်နိုင်ရေး အတွက် စိတ်ပါဝင်စားမှုဖော်ပြချက် (Expression of Interest) (EOI)များအား ငါးလုပ်ငန်းဦးစီးဌာနမှ (၁၃-၆-၂၀၁၄) ရက်နေ့ |

| | | |
|---|---|---|
| ၁၇။ | ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့် အညီ ချုပ်ဆိုထားသည့် မြေငှား စာချုပ် (မူကြမ်း)ပါ အဓိကအချက်များ | - ကုမ္ပဏီအဖွဲ့အစည်းပေါင်း ၈၄ ဦး အနက် ရေလုပ်ငန်း နှင့် ဆက်စပ်မှုရှိပြီး လုပ်ငန်းကျွမ်းကျင်မှုရှိသော အောင်ဖြိုးမြတ် ကုမ္ပဏီအား ရွေးချယ်ခဲ့ပါကြောင်း။<br>- ခေတ်မီငါးတင်ချ ဆိပ်ခံတံတားနှင့် ငါးဈေးတည် ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်ခြင်းအတွက် ရန်ကုန် တိုင်းဒေသကြီး အစိုးရအဖွဲ့မှ (၁၃-၁၁-၂၀၁၄) ရက်နေ့တွင် ကျင်းပသည့် အစိုးရ အဖွဲ့အစည်းအဝေးအမှတ်စဉ် (၄၂/၂၀၁၄)မှ ကန့်ကွက် ရန် မရှိကြောင်းသဘော ထားမှတ်ချက် ရရှိပြီး ဖြစ်ပါကြောင်း။<br>- ပြည်ထောင်စု အစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် ၈/၂၀၁၅ (၉-၄-၂၀၁၅) မှ ခေတ်မီ ငါးတင်/ချ ဆိပ်ခံတံတား နှင့် ငါးဈေး တည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံတကာ ပူးပေါင်း ဆောင်ရွက်ရေးအေဂျင်စီ (MICA) သို့ လွှဲပြောင်း ဆောင်ရွက် ခြင်းအား ခွင့်ပြုသဘောတူပြီး ဖြစ်ပါကြောင်း။<br>- MICA မှ ကြို့ကုန်းမြို့နယ်ရှိမြေကွက်အမှတ် (၃)၊ မြေအကျယ် အဝန်း (၂.၀၆) ဧကပေါ်တွင် ခေတ်မီ ငါးတင်/ချ ဆိပ်ခံတံတား နှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်း အတွက် အောင်ဖြိုးမြတ် ကုမ္ပဏီသို့ လုပ်ကိုင်ခွင့်ပြုခြင်းမှာ မှန်ကန်ပါကြောင်း။<br>- ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ အဆိုပြုကုမ္ပဏီနှင့် မြန်မာနိုင်ငံတကာ ပူးပေါင်း ဆောင်ရွက် ရေး အေဂျင်စီ (MICA)တို့ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>- နှစ်စဉ်မြေငှားရမ်းခ နှုန်းထားများမှာ မြေ ၂.၀၆ ဧက (၈၉၇၃၃.၆၀ စတုရန်းပေ)အတွက် ၁ စတုရန်းပေလျှင် ၅၅၀ ကျပ်နှုန်းဖြင့် နှစ်စဉ် ကျပ် ၄၉၃၅၃၄၈၀ ကို ပေး ချေရပါမည်။ (အပိုဒ်-၇-၁)<br>- နှစ်အလိုက်မြေငှားခများကို (၅)နှစ်လျှင်တစ်ကြိမ်နှစ်ဦး နှစ်ဖက် ညှိနှိုင်းသတ်မှတ်ရမည်။ ထိုသို့ ညှိနှိုင်း သတ်မှတ်ရာ တွင် ပြီးခဲ့ သော(၅)နှစ်တာကာလအတွက် နှစ်စဉ် မြေငှားခ နှုန်းထား၏ ၁၅% ထက်မပိုစေရန် သဘောတူကြပါသည်။ (အပိုဒ်-၇-၂)<br>- ကနဦး သက်တမ်း(၅၀)နှစ်အတွင်း စာချုပ် အကျိုး သက်ရောက်သည့်နေ့မှစ၍ (၁)နှစ်အထိ ကာလကို လုပ်ငန်း ပြုပြင် တည်ဆောက်မှုများ ပြုလုပ်ရန် လုပ်ငန်း စမ်းသပ်ကာလ အဖြစ် သတ်မှတ်သဖြင့် မြေငှားခများ ပေးချေရန် မလိုပါ။ (အပိုဒ်-၇-၄-က)<br>- ကနဦးသက်တမ်း(၅၀)နှစ်အတွင်း ၂၀၂၀-၂၀၂၁ ခုနှစ် မှ ကျန်သောနှစ်များအတွက် ၅ နှစ်လျှင် တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်ထားသည့် နှစ်အလိုက် မြေငှားခနှုန်းထားများ အတိုင်းနှစ်စဉ်ပေးချေရမည်။ (အပိုဒ်-၇-၄-ဂ) |

| | | |
|---|---|---|
| ၁၈။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | (က) လုပ်ငန်းဆောင်ရွက်မည့်မြေသည် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန အမည်ပေါက်ဖြင့် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှ အစိုးရပိုင်မြေ ဖြစ်ကြောင်းနှင့် နယ်နိမိတ်တိုင်းတာသတ်မှတ်သည့် အတိုင်းအတာပြ မြေပုံအား ပူးတွဲတင်ပြထားပါသည်။<br>(ခ) ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ လှိုင်မြစ်အရှေ့ဘက်ကမ်း နဖူးရှိမြေနေရာကို ကျောထောက် နောက်ခံပြုလုပ်၍ ကွန်ကရစ်တံတား ၂ စင်းတည်ဆောက်ခြင်းအတွက် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် ငါးလုပ်ငန်းဦးစီးဌာန၊ မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေး အေဂျင်စီ (MICA)တို့ သဘောတူညီမှုရရှိပြီးဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။ သဘောတူညီမှုရရှိပြီးဖြစ်သည့်အတွက် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့်မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေး အေဂျင်စီ (MICA)တို့ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)ကိုလည်း တင်ပြထားပြီး ဖြစ်ပါသည်။<br>(ဂ) ပြည်ထောင်စုအစိုးရအဖွဲ့၊ အစည်းအဝေး အမှတ်စဉ် ၁၃/၂၀၁၄ (၃-၇-၂၀၁၄)မှ မွေးမြူ ရေး၊ ရေလုပ်ငန်းနှင့် ကျေးလက် ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ ကျေးလက်ဒေသ ဖွံ့ဖြိုးရေးမဟာဗျူဟာ (Rural Development Strategic Frame Work)နှင့်အညီ မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA) ကို ဖွဲ့စည်းဆောင်ရွက်ခွင့်ပြုရန် မူအားဖြင့် သဘောတူညီပြီး ပြည်ထောင်စု အစိုးရအဖွဲ့၊ အစည်းအဝေးအမှတ် စဉ် ၁၆/၂၀၁၅ (၁၃-၈-၂၀၁၅)မှ မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA)၏ ရည်ရွယ်ချက်များ လုပ်ငန်းစဉ်များ အကောင်အထည်ဖော်ဆောင်ရွက်သွားရန် နှင့် ကြီးကြပ်ဆောင်ရွက်နိုင်ရန် MICA ဒါရိုက်တာအဖွဲ့အား သမ္မတရုံးဝန်ကြီးဌာန (၃)၊ ပြည်ထောင်စုဝန်ကြီးမှ ဥက္ကဋ္ဌအဖြစ် ဦးဆောင်အဖွဲ့၍ အဖွဲ့ဝင် (၁၄)ဦးဖြင့် ဖွဲ့စည်း ဆောင်ရွက်ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။<br>(ဃ) ပြည်ထောင်စုအစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် ၈/၂၀၁၅ (၉-၄-၂၀၁၅)မှ ငါးလုပ်ငန်းဦးစီးဌာနမှ မြန်မာနိုင်ငံတကာပူးပေါင်း ဆောင်ရွက်ရေးအေဂျင်စီ (MICA) သို့လွှဲပြောင်းဆောင်ရွက်ခွင့်ပြုထားပြီး ဖြစ်သည့် အတွက် မြေပိုင်ရှင်ဌာနနှင့် ကုမ္ပဏီတို့ မြေငှားစာချုပ် ချုပ်ဆိုရာတွင် MICA မှ Chief Officer မှ လက်မှတ် ရေးထိုး ချုပ်ဆိုမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၄/မ- ၁၅၃၉ / ၂၀၁၆( ၇၃၆ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇွန် လ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Aung Phyo Myat Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန် မြို့နယ် (ကြို့ကုန်း)ရှိ ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေနေရာတွင် ငါးတင်/ချ ဆိပ်ခံတံတား နှင့် ငါးဈေးတည်ဆောက်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြု တင်ပြခြင်းကိစ္စ**

၁။ Aung Phyo Myat Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်(ကြို့ကုန်း)ရှိ စိုက်ပျိုးရေးမွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ Myanmar International Co-operation Agency(MICA)၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်၊မြေကွက်အမှတ်(၃)၊မြေ ဧရိယာ ၂.၀၆ ဧကရှိ မြေနေရာတွင် ခေတ်မီငါးတင်/ချ ဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်မောင်စိုးမှ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကို ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ (၉/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ Myanmar International Co-operation Agency (MICA) နှင့် Aung Phyo Myat Co.,Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) နှစ်စဥ်မြေငှားရမ်းခ နှုန်းထားများမှာ မြေဧရိယာ၂.၀၆ဧက (၈၉၇၃၃.၆၀ စတုရန်းပေ) အတွက် ၁စတုရန်းပေလျှင် ၅၅၀ ကျပ်နှုန်းဖြင့် နှစ်စဥ် ကျပ် ၄၉၃၅၃၄၈၀ ကို ပေး ချေရပါမည်။(အပိုဒ်-၇-၁)

(ခ) နှစ်အလိုက် မြေငှားခများကို (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်း သတ်မှတ်ရမည်။ ထိုသို့ ညှိနှိုင်း သတ်မှတ်ရာတွင် ပြီးခဲ့သော(၅)နှစ်တာကာလအတွက် နှစ်စဥ် မြေငှားခနှုန်းထား၏ ၁၅% ထက်မပိုစေရန် သဘောတူကြပါသည်။(အပိုဒ်-၇-၂)

(ဂ) ကနဦး သက်တမ်း(၅၀)နှစ်အတွင်း စာချုပ် အကျိုး သက်ရောက်သည့်နေ့မှစ၍ (၁) နှစ်အထိ ကာလကို လုပ်ငန်းပြုပြင် တည်ဆောက်မှုများ ပြုလုပ်ရန် လုပ်ငန်းစမ်းသပ်ကာလအဖြစ် သတ်မှတ်သဖြင့် မြေငှားခများ ပေးချေရန် မလိုပါ။(အပိုဒ်-၇-၄-က)

(ဃ) ကနဦးသက်တမ်း(၅၀)နှစ်အတွင်း ၂၀၂၀-၂၀၂၁ ခုနှစ် မှ ကျန်သောနှစ်များအတွက် ၅ နှစ်လျှင် တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်ထားသည့် နှစ်အလိုက် မြေငှားခနှုန်းထားများအတိုင်းနှစ်စဉ်ပေးချေရမည်။ (အပိုဒ်-၇-၄-ဂ)

(င) မြေငှားချထားခြင်းခံရသူသည် မြေငှားစာချုပ်ပါ စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါဖြစ်စေ၊ စာချုပ်ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ ကုန်ဆုံးသည့်နေ့(သို့မဟုတ်) ရပ်စဲသည့်နေ့မှ (၃)လအတွင်း တပ်ဆင်ထားသော စက်ကိရိယာများအပါအဝင် ဆောက်လုပ်ထားသည့် အဆောက်အဦများကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ မြေငှားရမ်းသူပိုင် ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ မြေငှားရမ်းသူမှ ၄င်းအဆောက်အဦများ အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန် ဆန္ဒမရှိ လျှင် ထိုသို့လက်ခံနိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့် အဆောက်အဦများကို မြေငှားချထားခြင်းခံရသူ၏ တာဝန်နှင့် ကုန်ကျစရိတ်ဖြင့် လုံးဝ ဖယ်ရှားပေးရမည်။ (အပိုဒ်-၁၁)

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ်နှင့် နောက်ထပ် ၁၀ နှစ် ၂ ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၃)နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ ကျပ် ၄၅၀၀ သန်း ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | | | |
|---|---|---|---|---|---|
| (က) | ငွေပမာဏ | | ကျပ် | ၄၇၄ | သန်း |
| (ခ) | အဆောက်အဦ | | | | |
| | (၁) | ရေငန် တံတားတည်ဆောက်ခြင်း | ကျပ် | ၁၉၂၅ | သန်း |
| | (၂) | ရေချို တံတားတည်ဆောက်ခြင်း | ကျပ် | ၆၂၃ | သန်း |
| | (၃) | ငါးဈေးရုံ (၅) ရုံ ပိုင်တိုင်အုတ်မြစ်နှင့် ကွန်ကရစ်မြေထိန်းနံရံ တည်ဆောက်ခြင်း | ကျပ် | ၂၆၈ | သန်း |
| | (၄) | သံကူကွန်ကရစ်မြေထိန်းနံရံ တည်ဆောက်ခြင်း | ကျပ် | ၄၀၇ | သန်း |
| | (၅) | နှစ်ထပ်ခွဲရုံ၊ ပိုင်တိုင်အုတ်မြစ်နှင့် ကွန်ကရစ် ကြမ်းခင်းပြုလုပ်ခြင်း | ကျပ် | ၁၁၆ | သန်း |
| | (၆) | MICA စီမံကိန်း ကွန်ကရစ် လမ်းခင်းခြင်း | ကျပ် | ၁၇၉ | သန်း |
| | (၇) | ကွန်ကရစ်ရေကန်(၂)ကန် ပြုလုပ်ခြင်း | ကျပ် | ၁၆ | သန်း |
| | (၈) | ဈေးရုံပတ်လည်ရေမြောင်း၊ အဝင်လမ်း ရေမြောင်းနှင့် ဘေးရေမြောင်းပြုလုပ်ခြင်း | ကျပ် | ၅၆ | သန်း |
| | (၉) | ကားရပ်နားကွန်ကရစ်လွင်ပြင် | ကျပ် | ၈၈ | သန်း |
| | (၁၀) | ခြံစည်းရိုး (အုတ်+ သံပန်း) | ကျပ် | ၁၇ | သန်း |
| | (၁၁) | မြေပြုပြင်ခြင်း၊ သဲအိတ်တာဘောင်များ ပြုလုပ်ခြင်း | ကျပ် | ၃၉ | သန်း |
| | (၁၂) | ယာယီကမ်းထိန်းခြင်း | ကျပ် | ၇၅ | သန်း |

| | | | | |
|---|---|---|---|---|
| | (၁၃) မျောတိုင်ရိုက်ခြင်း | ကျပ် | ၉၃ | သန်း |
| | (၁၄) ယာဉ်၊ ယန္တရားအသုံးပြုခြင်း | ကျပ် | ၇၄ | သန်း |
| (ဂ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ တန်ဖိုးပမာဏ | ကျပ် | ၅၀ | သန်း |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၄၅၀၀** | **သန်း** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်း ၂၁၃ ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၆၀၀၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်နိုင်မှု | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|
| ၁။ | **ဆိပ်ခံတံတားအတွက် ကမ်းကပ်ခဝင်ငွေ**<br>(ဆိပ်ခံတံတားသို့ ဆိုက်ကပ်လှေ ၁၀၀ စီး၏ ငါး၊ ပုစွန် ရောင်းရငွေ အပေါ် ကုမ္ပဏီမှ (၃.၅)% ရရှိမည် ဖြစ်ပါသည်) | ၁၆၈၀.၀၀ |
| ၂။ | **ငါးဈေးဆိုင်ခန်းငှားရမ်းခ** | ၇၂.၀၀ |
| | **စုစုပေါင်း** | **၁၇၅၂.၀၀** |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၇၅၂.၀၀ |
| (ခ) | အသုံးစရိတ် | ၁၀၈၂.၀၂ |
| (ဂ) | အသားတင်အမြတ် | ၆၆၉.၉၈၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၈၇.၆၀ သန်း နှင့် ဝင်ငွေခွန် ကျပ် ၂၂၃.၃၃ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ (၅)နှစ်(၆)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၈ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း။

(၂) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ငါးဖမ်းစက်လှေလုပ်သား (၃၅၀၀)ဦး၊ ငါးချဆိပ်ကမ်း အခြေခံလုပ်သားနှင့် ရုံးဝန်ထမ်း(၂၅၀)ဦးတို့ အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် (ကြို့ကုန်း)ရှိ ငါးလုပ်ငန်းဦးစီးဌာန (MICA)ပိုင် ၊ မြေကွက်အမှတ်(၃)၊ မြေ ၂.၀၆ ဧကအား တစ်နှစ်လျှင် (1sqft=550 kyat,1sqm=5920 kyat) နှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း။

(၅) ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့တွင်ကျင်းပသော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၁၁/၂၀၁၆)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ် (၃၇) အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်း။

**(ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြု လုပ်ငန်းများ တာဝန်ခံ ပူးပေါင်းဆောင်ရွက်မှု(Corporate Social Responsibility-CSR)အတွက် အသားတင် အမြတ်ငွေ၏ (၂%)ကို အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များ အား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ဆောင်ရွက်ရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလာဒ်များကိုအခြေခံ၍ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေ စသည် တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မှ ချမှတ်ထားသော ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြား ချက်များ၊ စည်းကမ်းချက်များနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ အထက်ပါသဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း (၂၂-၂-၂၀၁၆) ရက်စွဲပါစာဖြင့် တင်ပြပါသည်။)**

**(ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ Aung Phyo Myat Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ ကုန်း၊ လှိုင်မြစ် အရှေ့ဘက်ကမ်းရှိ မြေနေရာအား ကျောထောက် နောက်ခံ ပြု၍ တည်ဆောက်မည့် ဆိပ်ခံတံတား(၂)စင်းကို ငါးတင်/ချဆိပ်ခံတံတားနှင့် ငါးဈေး တည်ဆောက်ရန်အတွက်လစဉ်မြေငှားရမ်းခ {(၄၀၁'+၁၂'+၁၆၂')x၁၃၂} = ၇၅၉၀၀ စတုရန်းပေ (သို့မဟုတ်)၇၀၅၀.၆၅ စတုရန်းမီတာအတွက် ၁ စတုရန်း မီတာလျှင် ကျပ် ၅၀၀/-နှုန်းဖြင့် ငွေကျပ် ၃၅၂၆,၀၀၀/-(ကျပ် သုံးဆယ့် ငါးသိန်း နှစ်သောင်းခြောက်ထောင်တိတိ)ကိုလည်းကောင်း၊ လစဉ်မြေငှားရမ်းခနှုန်းထား ကို ပုံသေမထားဘဲ (၅)နှစ် တစ်ကြိမ် ပြန်လည်စိစစ်ပြီး ယခင်ငှားရမ်းခ၏(၁၅%) ထက်မများစေဘဲ တိုးမြှင့်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်မည် ဆိုပါက ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း။

**(ဃ) စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ဃ)**

(၁) ဝန်ကြီးဌာနနှင့် ဆက်စပ်မှုရှိသော ပုဂ္ဂလိက လုပ်ငန်းရှင်/ ကုမ္ပဏီ အဖွဲ့အစည်း များ နှင့် အကျိုးတူ ပူးပေါင်း ဆောင်ရွက် နိုင်ရေးအတွက် စိတ်ပါဝင်စားမှု ဖော်ပြ

ချက် (Expression of Interest) (EOI) များအား ငါးလုပ်ငန်းဦးစီးဌာနမှ (၁၃-၆-၂၀၁၄) ရက်နေ့တွင် တင်ဒါ ခေါ်ယူခဲ့ပါကြောင်း။

(၂) ပုဂ္ဂလိကလုပ်ငန်းရှင်/ကုမ္ပဏီအဖွဲ့အစည်းပေါင်း ၈၄ ဦး အနက် ရေလုပ်ငန်း နှင့် ဆက်စပ်မှုရှိပြီး လုပ်ငန်း ကျွမ်းကျင်မှုရှိသော အောင်ဖြိုးမြတ် ကုမ္ပဏီအား ရွေးချယ်ခဲ့ပါကြောင်း။

(၃) ခေတ်မီငါးတင်ချ ဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ (၁၃-၁၁-၂၀၁၄) ရက်နေ့တွင် ကျင်းပသည့် အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၂/၂၀၁၄)မှ ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက် ရရှိပြီး ဖြစ်ပါကြောင်း။

(၄) ပြည်ထောင်စု အစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် ၈/၂၀၁၅ (၉-၄-၂၀၁၅) မှ ခေတ်မီ ငါးတင်/ချ ဆိပ်ခံတံတား နှင့် ငါးဈေး တည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA) သို့ လွှဲပြောင်း ဆောင်ရွက်ခြင်းအား ခွင့်ပြုသဘောတူပြီး ဖြစ်ပါကြောင်း။

(၅) MICA မှ ကြို့ကုန်းမြို့နယ်ရှိ မြေကွက် အမှတ် (၃)၊ မြေ အကျယ်အဝန်း (၂.၀၆) ဧကပေါ်တွင် ခေတ်မီငါးတင်/ချ ဆိပ်ခံတံတားနှင့် ငါးဈေး တည်ဆောက်ခြင်း လုပ်ငန်းအတွက် အောင်ဖြိုးမြတ် ကုမ္ပဏီသို့ လုပ်ကိုင်ခွင့်ပြုခြင်းမှာ မှန်ကန်ပါကြောင်း။

၁၀။ ကျပ်ငွေ အထောက်အထားအဖြစ် Aung Phyo Myat Co., Ltd. အမည်ဖြင့် Myanma APEX Bank Ltd. (Thein Phyu Branch) တွင် (၃-၂-၂၀၁၆) ရက်နေ့၌ ငွေကျပ် ၁,၁၀၀,၅၀၅, ၉၁၂.၉၁ ရှိကြောင်း တင်ပြ ထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ သက်ဆိုင်ရာဌာန/ အဖွဲ့အစည်း အသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါ သည်။ မီးဘေး ကြိုတင်ကာကွယ်တားဆီးရေး စီမံချက်ကို တင်ပြထားပါသည်။

၁၂။ ဝန်ထမ်းများသက်သာချောင်ချိရေး အနေဖြင့် အလုပ်သက်တမ်း၊ ရာထူးစသည်တို့ပေါ်တွင် အခြေခံ၍ အရည်အချင်းပြည့်မီသော ဝန်ထမ်းများအား ၎င်းတို့ ထပ်မံဆည်းပူးလေ့လာလိုသော ပညာရပ်များ သင်ယူလိုပါက အထောက်အပံ့ပေးခြင်း၊ ဝန်ထမ်းများအားလုံးအတွက် လူမှုဖူလုံရေး စောင့်ရှောက်မှုထည့်သွင်းပေးခြင်း၊ လုပ်ခလစာအပေါ် ဝင်ငွေခွန် ပေးဆောင်ပေးခြင်းများပြုလုပ် ပေးသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် နှစ်စဉ်အသားတင် အမြတ်ငွေ၏ ၂ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့် စပ်လျဉ်း၍ ၁၃၇၃၃၈၇ kWh သုံးစွဲမည်ဖြစ်ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) လုပ်ငန်းဆောင်ရွက်မည့်မြေသည် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန အမည်ပေါက် ဖြင့် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှ အစိုးရပိုင်မြေ ဖြစ်ကြောင်းနှင့် နယ်နိမိတ်တိုင်းတာသတ်မှတ်သည့် အတိုင်းအတာပြမြေပုံအား ပူးတွဲတင်ပြထားပါသည်။

(ခ) ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ လှိုင်မြစ်အရှေ့ဘက်ကမ်း နဖူးရှိမြေနေရာကို ကျောထောက်နောက်ခံပြုလုပ်၍ ကွန်ကရစ်တံတား ၂ စင်းတည်ဆောက်ခြင်းအတွက် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေး အေဂျင်စီ (MICA)တို့ သဘောတူညီမှု ရရှိပြီးဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။ သဘောတူညီမှု ရရှိပြီးဖြစ်သည့်အတွက် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေး အေဂျင်စီ (MICA) တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း) တင်ပြထားပါသည်။

(ဂ) ပြည်ထောင်စုအစိုးရအဖွဲ့၊အစည်းအဝေးအမှတ်စဉ် ၁၃/၂၀၁၄(၃-၇-၂၀၁၄)မှ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ ကျေးလက်ဒေသဖွံ့ဖြိုးရေးမဟာဗျူဟာ (Rural Development Strategic Frame Work)နှင့်အညီ မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA) ကို ဖွဲ့စည်းဆောင်ရွက်ခွင့်ပြုရန် မူအားဖြင့်သဘောတူညီပြီး ပြည်ထောင်စုအစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် ၁၆/၂၀၁၅ (၁၃-၈-၂၀၁၅) မှ မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA)၏ ရည်ရွယ်ချက်များ လုပ်ငန်းစဉ်များ အကောင်အထည်ဖော်ဆောင်ရွက်သွားရန် နှင့် ကြီးကြပ်ဆောင်ရွက်နိုင်ရန် MICA ဒါရိုက်တာအဖွဲ့အား သမ္မတရုံးဝန်ကြီးဌာန (၃)၊ ပြည်ထောင်စုဝန်ကြီးမှ ဥက္ကဋ္ဌအဖြစ် ဦးဆောင်အဖွဲ့၍ အဖွဲ့ဝင် (၁၄)ဦးဖြင့် ဖွဲ့စည်းဆောင်ရွက်ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

(ဃ) ပြည်ထောင်စုအစိုးရအဖွဲ့၊အစည်းအဝေးအမှတ်စဉ် ၈/၂၀၁၅(၉-၄-၂၀၁၅)မှငါးလုပ်ငန်းဦးစီးဌာနမှ မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA) သို့လွှဲပြောင်းဆောင်ရွက်ခွင့်ပြုထားပြီးဖြစ်သည့်အတွက် မြေပိုင်ရှင်ဌာနနှင့်ကုမ္ပဏီ တို့မြေငှားစာချုပ်ချုပ်ဆိုရာတွင် မြေပိုင်ရှင်ဌာနအနေဖြင့် MICA မှ Chief Officer မှ လက်မှတ်ရေးထိုးချုပ်ဆိုမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ(က၊ဂ၊စ၊ဆ၊ဈ၊ည)အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Aung Phyo Myat Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်(ကြို့ကုန်း)ရှိ စိုက်ပျိုးရေးမွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ Myanmar International Co-operation Agency(MICA)၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေကွက်အမှတ်(၃)၊ မြေဧရိယာ ၂.၀၆ ဧကရှိ မြေနေရာတွင် ခေတ်မီ ငါးတင်/ချ ဆိပ်ခံတံတား နှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ




နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၄/ မ-၁၅၃၉/၂၀၁၆(၃၁၈)

၁။ Aung Phyo Myat Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်(ကြို့ကုန်း)ရှိ ငါးလုပ်ငန်းဦးစီးဌာန (MICA)ပိုင်၊ မြေကွက်အမှတ်(၃)၊ မြေ ၂. ၀၆ ဧကရှိ မြေနေရာတွင် BOT စနစ်ဖြင့် ငါးတင်/ချဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ငါးဖမ်းစက်လှေလုပ်သား(၃၅၀၀)ဦး၊ ငါးချဆိပ်ကမ်းအခြေခံလုပ်သားနှင့် ရုံးဝန်ထမ်း(၂၅၀)ဦးတို့ အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်(ကြို့ကုန်း)ရှိ ငါးလုပ်ငန်းဦးစီးဌာန(MICA)ပိုင်၊ မြေကွက်အမှတ်(၃)၊ မြေ ၂. ၀၆ ဧကအား တစ်နှစ်လျှင် (1sqft= 550 kyat, 1sqm= 5920 kyat) နှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2016/Cabinet/11..(19)

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁၁. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၁/ ၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၃၇)အရ Aung Phyo Myat Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အင်းစိန်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Aung Phyo Myat Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/11.(20)



နောက်ဆက်တွဲ-ခ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၉၇/၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် မတ် လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

713-618
18/3

အကြောင်းအရာ။ **Aung Phyo Myat Co.,Ltd မှ ငါး တင်/ချ ဆိပ်ခံတံတားနှင့်ငါးဈေး တည်ဆောက်ခြင်းလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၃၉/ ၂၀၁၆(၃၁၆-က)

၁။ Aung Phyo Myat Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်(ကြို့ကုန်း)ရှိ ငါးလုပ်ငန်းဦးစီးဌာန(MICA)ပိုင်၊ မြေကွက်အမှတ်(၃)၊ မြေ ၂.၀၆ဧကရှိ မြေနေရာတွင် BOT စနစ်ဖြင့် ငါး တင်/ချ ဆိပ်ခံတံတားနှင့်ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း၊ မီးဘေးလုံခြုံရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်လုပ်သားများသက်သာချောင်ချိရေး အစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR)လုပ်ငန်းများတွင် ထည့်သွင်း အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အဆောက်အဦများအတွင်းသန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ ရေနုတ်မြောင်းများအားရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Aung Phyo Myat Co.,Ltd မှ ငါးတင်/ချဆိပ်ခံတံတားနှင့်ငါးဈေးတည်ဆောက်ခြင်း

လုပ်ငန်းများကြောင့် တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာမှထွက်ရှိလာမည့် ဖုန်မှုန့်နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ တည်ဆောက်ရေးယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများ၊ အခိုးအငွေ့များနှင့်ဆူညံသံများကြောင့် ပတ်ဝန်းကျင်လေထု၊ မြေထု၊ ရေထု ညစ်ညမ်းခြင်း၊ ဆိုက်ကပ်လာမည့်သင်္ဘောများမှထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များ၊ မိလ္လာ အညစ်အကြေးများ၊ ဖိတ်စင်စက်သုံးဆီများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေခြင်းနှင့်ရေနေ သတ္တဝါများ၏ အသက်ရှင်နေထိုင်မှုကိုထိခိုက်ပျက်စီးစေနိုင်ခြင်း၊ ငါးဈေးမှထွက်ရှိလာမည့် ငါး/ပုစွန်အခွံများ၊ အစအနများ၊ ဝမ်းတွင်းကလီစာများကြောင့်လည်းကောင်း၊ သိုလှောင်ခြင်းမှ ထွက်ရှိလာမည့်အနံ့အသက်များကြောင့်လည်းကောင်း၊ ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထု ညစ်ညမ်းခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Aung Phyo Myat Co.,Ltd မှ ငါးတင်/ချဆိပ်ခံတံတားနှင့်ငါးဈေးတည် ဆောက်ခြင်းလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍အောက်ပါ အတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအ ချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြု လွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံပူးပေါင်း ဆောင်ရွက်မှု(Corporate Social Responsibility–CSR )အတွက်အသားတင် အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက် နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မ ဟုတ် )ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်**ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း**(Initial Environmental Examination –IEE)ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက် မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းများနှင့်အညီအစီရင်ခံစာရေးသားတင်ပြ ရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း**(Environmental Impact Assessment – EIA )ကိုဆောင်ရွက်ရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေ ရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင် ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ် နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူ များ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

နောက်ဆက်တွဲ-ဂ

စာအမှတ်၊ ပဆ-(၃)/ (တံတား-MPA)/၂၀၁၆( ၁၃၂ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မေလ ၂၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၃.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၄/ မ-၁၅၃၉/၂၀၁၆ (၃၁၉)
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၄.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက- ၄ / မ- ၁၅၃၉/၂၀၁၆(၆၀၁)

၁။ Aung Phyo Myat Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်(ကြို့ကုန်း)ရှိ ငါးလုပ်ငန်းဦးစီးဌာန (MICA) ပိုင်၊ မြေကွက်အမှတ် (၃)၊ မြေဧရိယာ (၂.၀၆)ဧကရှိ မြေနေရာတွင် BOT စနစ်ဖြင့် ငါးတင်/ချ ဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့်လုပ်ကိုင်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်မောင်စိုးမှ စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာများဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ MICA မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ လှိုင်မြစ်အရှေ့ဘက်ကမ်းရှိ မြေနေရာအား ကျောထောက်နောက်ခံပြု၍ တည်ဆောက်မည့်ဆိပ်ခံတံတား (၂) စင်းကို ငါးတင်/ ချဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ရန်အတွက် လစဉ်မြေငှားရမ်းခ { (၄၀၀' + ၁၂' + ၁၆၂' ) x ၁၃၂'} = ၇၅၉၀၀ စတုရန်းပေ (သို့မဟုတ်) ၇၀၅၀.၆၅ စတုရန်းမီတာအတွက် ၁ စတုရန်းမီတာလျှင် ၅၀၀/-နှုန်းဖြင့် ငွေကျပ် ၃၅၂၆,၀၀၀/- (ကျပ်သုံးဆယ့်ငါးသိန်း နှစ်သောင်း ခြောက်ထောင် တိတိ) ကိုလည်းကောင်း၊ လစဉ်မြေငှားရမ်းခနှုန်းထားကို ပုံသေမထားဘဲ (၅) နှစ် တစ်ကြိမ် ပြန်လည်စိစစ်ပြီး ယခင်ငှားရမ်းခ၏ (၁၅%) ထက်မများစေဘဲ တိုးမြှင့်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်မည်ဆိုပါက ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

\\Moldakin\d\EHWE 1 (WATER TRANSPORT)\2016\NEW GOVERNMENT\MPA\S2 PA SA\S2 PA SA (PORT).doc

၁၁၆ ၁၆၄/၁၉.၂.၁၆
နောက်ဆက်တွဲ-ဃ

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊၃/၃၀၀၀/မွေးရေကျေး( ၂၉၃ /၂၀၁၆)
ရက်စွဲ ၊၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ ငါးလုပ်ငန်းဦးစီးဌာန(MICA)ပိုင် ကြို့ကုန်းနယ်မြေရှိမြေနေရာတွင် ငါးတင်/ ချဆိပ်ခံတံတား နှင့် ငါးဈေးလုပ်ငန်းအားလုပ်ကိုင်ခွင့်ပြုခြင်း

၁။ ငါးလုပ်ငန်းဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး၊ ကြို့ကုန်းနယ်မြေရှိ မြေနေရာများတွင် ဝန်ကြီးဌာနနှင့်လုပ်ငန်းဆက်စပ်မှုရှိသော ပုဂ္ဂလိကလုပ်ငန်းရှင်/ကုမ္ပဏီ အဖွဲ့အစည်းများနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် စိတ်ပါဝင်စားမှုဖော်ပြချက် ( Expression of Interest ) (EOI) များအား ငါးလုပ်ငန်းဦးစီးဌာနမှ (၁၃.၆.၂၀၁၄)ရက်နေ့တွင် ခေါ်ယူခဲ့ပါသည်။

၂။ ဌာနနှင့် ပူးပေါင်းဆောင်ရွက်လိုသည့် ပုဂ္ဂလိကလုပ်ငန်းရှင်/ကုမ္ပဏီ အဖွဲ့အစည်းပေါင်း (၈၄)ဦးအနက်မှ ရေလုပ်ငန်းနှင့်ဆက်စပ်မှုရှိပြီး လုပ်ငန်းကျွမ်းကျင်မှုရှိသောအောင်ဖြိုးမြတ် ကုမ္ပဏီအား မြေကွက်အမှတ်(၃) မြေအကျယ်အဝန်း(၂.၀၆) ဧကပေါ်တွင် ခေတ်မီ ငါးတင်/ ချဆိပ်ခံတံတား နှင့် ငါးဈေးတည်ဆောက်ရေးလုပ်ငန်းအား ဆောင်ရွက်နိုင်ရေးအတွက် ရွေးချယ်ခဲ့ပါသည်။ ခေတ်မီငါးတင်/ချဆိပ်ခံတံတား နှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် ရန်ကုန်တိုင်းဒေသကြီး၊ အစိုးရအဖွဲ့မှ (၁၃.၁၁.၂၀၁၄) ရက်နေ့တွင် ကျင်းပသည့် ရန်ကုန်တိုင်းဒေသကြီး၊ အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၂/၂၀၁၄) မှ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက်ရရှိပြီးဖြစ်ပါသည်။

၃။ မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးသို့ (၂၅.၃.၂၀၁၅)ရက်နေ့တွင် အမှာစာပေးပို့ခဲ့ရာ ပြည်ထောင်စုအစိုးရအဖွဲ့၏ (၉.၄.၂၀၁၅)ရက်နေ့တွင် ကျင်းပသည့် အစည်းအဝေးအမှတ်စဉ်(၈/၂၀၁၅)မှ ခေတ်မီငါးတင်/ချဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ(MICA) သို့ လွှဲပြောင်းဆောင်ရွက်ခြင်းအား ခွင့်ပြုသဘောတူပြီးဖြစ်ပါသည်။

လျှို့ဝှက်

၄။ သို့ဖြစ်ပါ၍ ယခုအခါငါးလုပ်ငန်းဦးစီးဌာန(MICA)မှကြို့ကုန်းနယ်မြေရှိ မြေကွက်အမှတ်(၃)မြေအကျယ်အဝန်း(၂.၀၆)ဧကပေါ်တွင် ခေတ်မီငါးတင်/ချဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်းအတွက် အောင်ဖြိုးမြတ်ကုမ္ပဏီသို့ လုပ်ကိုင်ခွင့်ပြုထားခြင်းမှာမှန်ကန်ပါကြောင်း တင်ပြ အပ်ပါသည်။

အုန်းမြင့်
၁၆၊၂၊၂၀၁၆

အုန်းမြင့်
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
ရုံးလက်ခံ

ဘဘ-၆၇
၂၄/၃



ကဃ၃-၅၁၇
၂၂/၃

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/၃၀၀၀/မွေးရေကျေး( ၄၉၄/၂၀၁၆)
ရက်စွဲ ၂၀၁၆ခုနှစ်၊ မတ်လ ၂၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ( ၉ / ၂၀၁၆ ) အစည်းအဝေးဆုံးဖြတ်ချက်နှင့် အညီ ပြင်ဆင်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၃-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရကာ-၄/မ-၁၅၃၉/၂၀၁၆(၃၆၉)

၁။ Aung Phyo Myat Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် (ကြို့ကုန်း)ရှိ ငါးလုပ်ငန်းဦးစီးဌာန (MICA)ပိုင်၊ မြေကွက်အမှတ်(၃)၊ မြေဧရိယာ ၂.၀၆ ဧကရှိ မြေနေရာတွင် ခေတ်မီငါးတင်/ချ ဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် ဦးမောင်မောင်စိုးမှ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှတဆင့် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၉ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၉/၂၀၁၆ အစည်းအဝေးဆုံးဖြတ်ချက်များဖြစ်သည့် မြေပိုင်ဆိုင်မှုအထောက်အထားတင်ပြပေးရန်၊ MICA နှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်တို့မှ ဆိပ်ခံတံတားအတွက် စာချုပ်ချုပ်ဆိုရေးညှိနှိုင်းဆောင်ရွက်ရန်နှင့် ကော်မရှင်သို့ပြန်လည်တင်ပြရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန အမည်ပေါက်ဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ တိုင်းတာပေးသည့် မြေပုံကိုလည်းကောင်း၊ MICA နှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် ချုပ်ဆိုရေးအတွက် ( ၁၄-၃-၂၀၁၆ ) ရက်နေ့တွင် MICA ဒါရိုက်တာအဖွဲ့များနှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၊ မြို့ပြအင်ဂျင်နီယာချုပ်တို့ တွေ့ဆုံညှိနှိုင်း၍ စာချုပ်မူကြမ်းပြုစုပြီး MICA BOD အဖွဲ့၏ သဘောတူချက်ဖြင့် ၂၀၁၆ခုနှစ် မတ်လအတွင်း စာချုပ်ချုပ်ဆို ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပြန်လည်တင်ပြရန် အကြောင်းကြားလာခြင်းအား ပူးတွဲပါအထောက်အထားများနှင့်အတူ ပေးပို့တင်ပြအပ်ပါသည်။

၄။ စာချုပ်အား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ဘက်မှ ညှိနှိုင်းသဘောတူထားသည့်အတိုင်း ရေးသားပြုစုတင်ပြအပ်ပါသည်။

ရှမ်းမြင့်
၂၁/၃/၂၀၁၆
အုန်းမြင့်
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန
မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ(MICA)
ရုံးလက်ခံ

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် စာချုပ်ချုပ်ဆိုရန် အောက်ပါပုဂ္ဂိုလ်များမှ လက်မှတ်ရေးထိုးမည် ဖြစ်ပါသည်-

**မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA) ဘက်မှ**

ဦးခင်မောင်မော်

Director (ငါးကဏ္ဍ)

**အသိသက်သေများအဖြစ်**

အောင်ဖြိုးမြတ်ကုမ္ပဏီဘက်မှ မန်နေးဂျင်းဒါရိုက်တာ (သို့မဟုတ်) ဒါရိုက်တာ တစ်ဦး

တို့မှ လက်မှတ်ရေးထိုးပါမည်။

# MICA GYO GONE JETTY AND FISH MARKET PROJECT

ဆေးဝါးစက်ရုံလမ်း

စုစုပေါင်းမြေဧရိယာ ၂.ဝ၆ ဧက

ဘုရင့်နောင်လမ်း

ဘုရင့်နောင်လမ်း



| စဉ် | မြေတိုင်း ရပ်ကွက် | မြေကွက် အမှတ် | မြေအမျိုး အစား | ဧရိယာ | | အမည်ပေါက် |
|---|---|---|---|---|---|---|
| | | | | ဧက | ဒဿမ | |
| ၁ | ၄/သမိုင် | ၁က ၁ | ဘိုးဂ | ၉၀ | ၀၀၀ | မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန |
| ၂ | ၅/သမိုင်း | ၅ | ״ | ၀ | ၀၈၄ | ״ |
| ၃ | ၅/သမိုင်း | ၉ | ״ | ၀ | ၇၂၅ | ״ |
| ၄ | ၅/သမိုင်း | ၁၀ | ״ | ၀ | ၅၃၂ | ״ |
| ၅ | ၅/သမိုင်း | ၁၁ | ״ | ၀ | ၃၁၉ | ״ |
| ၆ | ၅/သမိုင်း | ၁၂ | ״ | ၀ | ၉၄၀ | ״ |
| ၇ | ၅/သမိုင်း | ၁၄ | ״ | ၀ | ၂၂၃ | ״ |
| ၈ | ၅/သမိုင်း | ၁၅ | ״ | ၀ | ၃၄၆ | ״ |
| ၉ | ၅/သမိုင်း | ၁၆ | ״ | ၀ | ၄၂၃ | ״ |
| ၁၀ | ၅/သမိုင်း | ၁၈ | ״ | ၀ | ၃၀၅ | ״ |
| ၁၁ | ၅/သမိုင်း | ၁၃/က | ״ | ၀ | ၆၅၇ | ״ |
| ၁၂ | ၅/သမိုင်း | ၁၃/ခ | ״ | ၀ | ၆၅၆ | ״ |
| ၁၃ | ၅/သမိုင်း | ၁၃/ဃ | ״ | ၀ | ၆၅၆ | ״ |
| ၁၄ | ၅/သမိုင်း | ၁၃/င | ״ | ၀ | ၆၅၆ | ״ |
| ၁၅ | ၅/သမိုင်း | ၄/က | ״ | ၀ | ၃၀၇ | ״ |
| ၁၆ | ၅/သမိုင်း | ၆/က | ״ | ၃ | ၀၇၂ | ״ |
| ၁၇ | ၅/သမိုင် | ၇/က | ״ | ၁၂ | ၅၁၇ | ״ |
| ၁၈ | ၅/သမိုင်း | ၈/က | ״ | ၁ | ၇၅၁ | ״ |
| ၁၉ | ၅/သမိုင်း | ၁၇/က | ״ | ၀ | ၇၀၃ | ״ |
| | | စုစုပေါင်းဧက | | ၁၁၅ | ၈၇၂ | |



# အောင်ဖြိုးမြတ် ကုမ္ပဏီလီမိတက်

# Aung Phyo Myat Company Limited

မှ

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် (ကြို့ကုန်း)၊
ငါးလုပ်ငန်းဦးစီးဌာနဝင်းအတွင်းရှိ၊ ငါးလုပ်ငန်းဦးစီးဌာန (MICA)ပိုင်၊
မြေကွက်အမှတ် (၃)၊ မြေ(၂. ၀၆)ဧကကို ငှားရမ်း၍
ငါးတင်ငါးချ ဆိပ်ခံတံတား၊ ငါးဈေး အထောက်အကူပြု
အဆောက်အဦးများတည်ဆောက်ပြီး
ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

## အဆိုပြုတင်ပြချက်

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊၃/၃၀၀၀/မွေးရေကျေး( ၂၉၃ /၂၀၁၆)
ရက်စွဲ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ ငါးလုပ်ငန်းဦးစီးဌာန(MICA)ပိုင် ကြို့ကုန်းနယ်မြေရှိမြေနေရာတွင် ငါးတင်/ ချဆိပ်ခံတံတား နှင့် ငါးဈေးလုပ်ငန်းအားလုပ်ကိုင်ခွင့်ပြုခြင်း

၁။ ငါးလုပ်ငန်းဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး၊ ကြို့ကုန်းနယ်မြေရှိ မြေနေရာများတွင် ဝန်ကြီးဌာနနှင့်လုပ်ငန်းဆက်စပ်မှုရှိသော ပုဂ္ဂလိကလုပ်ငန်းရှင်/ကုမ္ပဏီ အဖွဲ့အစည်းများနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် စိတ်ပါဝင်စားမှုဖော်ပြချက် ( Expression of Interest ) (EOI) များအား ငါးလုပ်ငန်းဦးစီးဌာနမှ (၁၃.၆.၂၀၁၄)ရက်နေ့တွင် ခေါ်ယူခဲ့ပါသည်။

၂။ ဌာနနှင့် ပူးပေါင်းဆောင်ရွက်လိုသည့် ပုဂ္ဂလိကလုပ်ငန်းရှင်/ကုမ္ပဏီ အဖွဲ့အစည်းပေါင်း (၈၄)ဦးအနက်မှ ရေလုပ်ငန်းနှင့်ဆက်စပ်မှုရှိပြီး လုပ်ငန်းကျွမ်းကျင်မှုရှိသောအောင်ဖြိုးမြတ်ကုမ္ပဏီအား မြေကွက်အမှတ်(၃) မြေအကျယ်အဝန်း(၂.၀၆) ဧကပေါ်တွင် ခေတ်မီ ငါးတင်/ ချဆိပ်ခံတံတား နှင့် ငါးဈေးတည်ဆောက်ရေးလုပ်ငန်းအား ဆောင်ရွက်နိုင်ရေးအတွက် ရွေးချယ်ခဲ့ပါသည်။ ခေတ်မီငါးတင်/ချဆိပ်ခံတံတား နှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် ရန်ကုန်တိုင်းဒေသကြီး၊ အစိုးရအဖွဲ့မှ (၁၃.၁၁.၂၀၁၄) ရက်နေ့တွင် ကျင်းပသည့် ရန်ကုန်တိုင်းဒေသကြီး၊ အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၂/၂၀၁၄) မှ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက်ရရှိပြီးဖြစ်ပါသည်။

၃။ မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးသို့ (၂၅.၃.၂၀၁၅)ရက်နေ့တွင် အမှာစာပေးပို့ခဲ့ရာ ပြည်ထောင်စုအစိုးရအဖွဲ့၏ (၉.၄.၂၀၁၅)ရက်နေ့တွင် ကျင်းပသည့် အစည်းအဝေးအမှတ်စဉ်(၈/၂၀၁၅)မှ ခေတ်မီငါးတင်/ချဆိပ်ခံတံတားနှင့် ငါးဈေးတည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ(MICA) သို့ လွှဲပြောင်းဆောင်ရွက်ခြင်းအား ခွင့်ပြုသဘောတူပြီးဖြစ်ပါသည်။

လျှို့ဝှက်

နောက်ဆက်တွဲ (၈)

# AUNG PHYO MYAT COMPANY LIMITED

## Employee Statement

**Local Employees** (Kyats)

| Sr No | Designation | No of Employee | Salary Year 1-5 | | Salary Year 6-10 | | Salary Year 11-30 | | Total | | |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | Month | Years | Month | Years | Month | Years | Year (1-5) | Year (6-10) | Year(11-30) |
| | | | | | | | | | Kyat (000) | Kyat (000) | Kyat (000) |
| | **ရုံးဝန်ထမ်း** | | | | | | | | | | |
| 1 | အထွေထွေ မန်နေဂျာ | 1 | 600,000 | 7,200,000 | 630,000 | 7,560,000 | 661,500 | 7,938,000 | 7,200 | 7,560 | 7,938 |
| 2 | မန်နေဂျာ | 2 | 250,000 | 6,000,000 | 262,500 | 6,300,000 | 275,625 | 6,615,000 | 6,000 | 6,300 | 6,615 |
| 3 | စာရင်းကိုင်ချုပ် | 1 | 400,000 | 4,800,000 | 420,000 | 5,040,000 | 441,000 | 5,292,000 | 4,800 | 5,040 | 5,292 |
| 4 | လက်ထောက် စာရင်းကိုင် | 1 | 250,000 | 3,000,000 | 262,500 | 3,150,000 | 275,625 | 3,307,500 | 3,000 | 3,150 | 3,308 |
| 5 | စာရေးဝန်ထမ်း | 25 | 150,000 | 45,000,000 | 157,500 | 47,250,000 | 165,375 | 49,612,500 | 45,000 | 47,250 | 49,613 |
| | **Toal** | **30** | | | | | | | **66,000** | **69,300** | **72,766** |
| | **အခြေခံ အလုပ်သမား** | | | | | | | | | | |
| 1 | တာဝန်ခံ | 1 | 300,000 | 3,600,000 | 315,000 | 3,780,000 | 330,750 | 3,969,000 | 3,600 | 3,780 | 3,969 |
| 2 | လက်ထောက် တာဝန်ခံ | 5 | 250,000 | 15,000,000 | 262,500 | 15,750,000 | 275,625 | 16,537,500 | 15,000 | 15,750 | 16,538 |
| 3 | အလုပ်သမား | 145 | 130,000 | 226,200,000 | 136,500 | 237,510,000 | 143,325 | 249,385,500 | 226,200 | 237,510 | 249,386 |
| | **Toal** | **151** | | | | | | | **244,800** | **257,040** | **269,893** |
| | **လုံခြုံရေးနှင့် သန့်ရှင်းရေး** | | | | | | | | | | |
| 1 | တာဝန်ခံ | 2 | 200,000 | 4,800,000 | 210,000 | 5,040,000 | 220,500 | 5,292,000 | 4,800 | 5,040 | 5,292 |
| 2 | ဝန်ထမ်း | 30 | 120,000 | 43,200,000 | 126,000 | 45,360,000 | 132,300 | 47,628,000 | 43,200 | 45,360 | 47,628 |
| | **Toal** | **32** | | | | | | | **48,000** | **50,400** | **52,920** |
| | **Grand Total** | **213** | | | | | | | **358,800** | **376,740** | **395,579** |

**AUNG PHYO MYAT**
**COMPANY LIMITED**
Building-6, Room No.102, Nyaung Tan Road, Nyaung Tan Housing, Pazundaung Township, Yangon, Myanmar.
Ph: 09-8640118, 09-5185085, 09-5185088

# မီးဘေးလုံခြုံရေးစီမံချက်

## ၁။ ရည်ရွယ်ချက်

**"အောင်ဖြိုးမြတ် ကုမ္ပဏီလီမိတက်"** (Aung Phyo Myat Company Limited.)သည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် (ကြို့ကုန်း)၊ ငါးလုပ်ငန်းဦးစီးဌာနဝင်းအတွင်းရှိ၊ ငါးလုပ်ငန်းဦးစီးဌာန (MICA)ပိုင်၊ မြေကွက်အမှတ် (၃)၊ မြေ(၂. ၀၆)ဧကကို ငှားရမ်း၍ ငါးတင်ငါးချ ဆိပ်ခံတံတား၊ ငါးဈေး အထောက် အကူပြုအဆောက်အဦးများတည်ဆောက်ပြီး လုပ်ငန်းများဆောင်ရွက်ရာတွင် မလိုလားအပ်သော မီးဘေးအန္တရာယ်ကြောင့် ငွေကြေးနှင့်အခြား ဆုံးရှုံးမှုများမဖြစ်စေရေးအတွက် ထိရောက်သော ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်သွားရန်ရည်ရွယ်ပါသည်။

## ၂။ လုပ်ငန်းတည်နေရာ

ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် (ကြို့ကုန်း)၊ ငါးလုပ်ငန်းဦးစီးဌာနဝင်းအတွင်းရှိ၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေကွက်အမှတ် (၃)၊ မြေ(၂. ၀၆)ဧက

## ၃။ လုပ်ငန်းတာဝန်

ရည်ရွယ်ချက်အား အောင်မြင်စွာ အကောင်အထည်ဖော်နိုင်ရန် အောက်ပါလုပ်ငန်းတာဝန်များကို လိုက်နာဆောင်ရွက်သွားရမည်ဖြစ်သည်-

(က) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးလုပ်ငန်း
(ခ) မီးငြိမ်းသတ်ရေးလုပ်ငန်း
(ဂ) ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

## ၄။ မီးဘေးအန္တာရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်း

ကြိုတင်ကာကွယ်ရေးလုပ်ငန်းသည် အခြေခံအကျဆုံးနှင့် အထိရောက်ဆုံး လုပ်ငန်းဖြစ်၍ အောက်ပါညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရန်နှင့် အချိန်အခါနှင့် အခြေအနေအရ ဖြည့်စွက်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားရန်ဖြစ်သည်-

(၁) မီးလောင်စေနိုင်သော အခြေအနေများကို ဖယ်ရှားတားမြစ်ရန်၊
(၂) အဆောက်အဦးများအတွင်း မီးလောင်စေနိုင်သည့် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များ၊ အမြဲသန့်ရှင်းအောင် ရှင်းလင်းထားရန်။

(၃) လောင်စာဆီများကို သတ်မှတ်ကန့်သတ်ချက်နည်းလမ်းအတိုင်းစနစ်တကျ သိုလှောင်ခြင်း၊ ဖြည့်တင်းခြင်း၊ အသုံးပြုခြင်းနှင့် စွန့်ပစ်ခြင်းများပြုလုပ်ရန်။

(၄) လျှပ်စစ်သွယ်တန်းအသုံးပြုခြင်းကို မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ပြဌာန်းချက်များ၊ နည်းပညာများအတိုင်း တပ်ဆင်အသုံးပြုသွားရန်။

(၅) အဆောက်အဦးတွင် မြေစိုက်ကြိုးများနှင့် မိုးကြိုးလွှဲများတပ်ဆင်ရန်။

(၆) မီးဘေးကြိုတင်ကာကွယ်ရေး၊ မီးငြိမ်းသတ်ရေးအဖွဲ့များဖွဲ့စည်းပေး၍ နည်းပညာပေးသင်တန်းများပို့ချပေးရန်။

(၇) မီးသတ်ဆေးဗူးများ၊ မီးသတ်ရေပိုက်ခေါင်းများ၊ ရေလှောင်ကန်များ ထားရှိရန်။

## ၅။ မီးငြိမ်းသတ်ရန် ကြိုတင်လုပ်ငန်းများ

မီးလောင်မှု မဖြစ်ပွားရေးအတွက် ကြိုတင်ကာကွယ်ရေးနှင့် မီးလောင်မှုဖြစ်ပွား လာပါက အောက်ပါအတိုင်း လုပ်ငန်းများကို စနစ်တကျ လိုက်နာဆောင်ရွက်သွားရမည်။

(၁) အဆောက်အဦးနှင့် လိုအပ်သော နေရာတိုင်းတွင် မီးသတ် ဆေးဗူးများ၊ ရေပုံး၊ မီးသတ်ပိုက်လိုင်းများထားရှိရမည်။

(၂) အလိုအလျောက် မီးအချက်ပေးစနစ်နှင့် အချက်ပေးသံချောင်းများ တပ်ဆင်ရမည်။

(၃) မီးလှန့်အချက်ပေးသည့်စနစ်ကို သတ်မှတ်ထားရမည်။

(၄) မီးလောင်လျှင် ဦးစားပေးငြိမ်းသတ်ရေးကို သတ်မှတ်ရမည်။

(၅) မီးဘေးလုံးခြုံရေးဝန်ထမ်းကိုနေ့စဉ်တာဝန်ချထားရမည်။

(၆) အဆောကအဦးများတည်ဆောက်ရာတွင် အရေးပေါ်ထွက်ပေါက်များ၊ လှေခါးများကို စနစ်တကျထားရှိရမည်။

(၇) မီးလောင်မှုဖြစ်ပွားပါက အောက်ပါတို့ကို ချက်ချင်းအရေးတကြီးပြုလုပ်ရမည်-

(က) အချက်ပေးခေါင်းလောင်းခေါက်ခြင်း

(ခ) မီးသတ်ဦးစီးဌာနသို့ အမြန်ဆုံးမီးသတ်ကား လာရောက်ငြိမ်းသတ်နိုင်ရန် လမ်းညွှန်အကြောင်းကြားခြင်း။

(ဂ) ဦးစားပေးပစ္စည်းများ မီးလွတ်ရာသို့ ရွှေ့ပြောင်းခြင်း၊

(ဃ) မီးငြိမ်းသတ်ခြင်း၊

## ၆။ ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

အကယ်၍ မီးလောင်မှုကြောင့် လူနှင့်စက်ပစ္စည်းများကို အရေးပေါ်ပြောင်းရွှေ့မှုများ ပြုလုပ်ခဲ့ရသဖြင့် ထိခိုက်မှု၊ ဆုံးရှုံးမှုများရှိပါက တာဝန်ရှိကြီးကြပ်သူများသို့ တင်ပြ၍ နေရာ ချထားပေးခြင်း၊ ဆေးပေးခန်း၊ ဆေးရုံသို့ ပို့ဆောင်၍ ဆေးကုသမှုခံယူစေခြင်းနှင့်ကူညီ ထောက်ပံ့မှုပေးခြင်းတို့ကို ဆောင်ရွက်ပါမည်။

လေးစားစွာဖြင့်

MAUNG MAUNG SOE
MANAGING DIRECTOR
AUNG PHYO MYAT CO.,LTD.

# AUNG PHYO MYAT
## COMPANY LIMITED

Building-6, Room No.102, Nyaung Tan Road, Nyaung Tan Housing, Pazundaung Township, Yangon, Myanmar.
Ph: 09-8640118, 09-5185085, 09-5185088

## လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေး အစီအစဉ်

**"အောင်ဖြိုးမြတ် ကုမ္ပဏီလီမိတက်"** (Aung Phyo Myat Company Limited.)သည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် (ကြို့ကုန်း)၊ ငါးလုပ်ငန်းဦးစီးဌာနဝင်းအတွင်းရှိ၊ ငါးလုပ်ငန်းဦးစီးဌာန(MICA)ပိုင်၊ မြေကွက်အမှတ် (၃)၊ မြေ(၂. ၀၆)ဧကကို ငှားရမ်း၍ ငါးတင် ငါးချ ဆိပ်ခံတံတား၊ ငါးဈေး အထောက်အကူပြု အဆောက်အဦးများတည်ဆောက်ပြီး လုပ်ငန်းများ လုပ်ကိုင်ရာတွင် လုပ်သားသက်သာချောင်ချိရေး အစီအစဉ်ကို အောက်ပါ အတိုင်းစီစဉ်ထားပါသည်။

၁။ ဝန်ထမ်းများကို အကြို/ အပို့ မော်တော်ယဉ်များလည်းစီစဉ်ပေးထားမည်ဖြစ်ပါသည်။

၂။ ဝန်ထမ်းထမင်းစားဆောင်ကိုလည်း တည်ဆောက်ပြီး ထမင်းစားခုံ၊ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးပါမည်။

၃။ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျှက် အလုံအလောက် တည်ဆောက်ထားရှိမည်ဖြစ်ပါသည်။

၄။ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ လုပ်ငန်းပတ်ဝန်းကျင်သန့်ရှင်းမှုရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ်မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန် အစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၅။ အဆောက်အဦးများတွင် လေဝင်လေထွက်ကောင်းစေရန် စီမံဆောက်ရွက်ထားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

MAUNG MAUNG SOE
MANAGING DIRECTOR
AUNG PHYO MYAT CO.,LTD.

# AUNG PHYO MYAT

## COMPANY LIMITED

Building-6, Room No.102, Nyaung Tan Road, Nyaung Tan Housing, Pazundaung Township, Yangon, Myanmar.
Ph: 09-8640118, 09-5185085, 09-5185088


## <u>ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအခြေအနေတင်ပြခြင်း</u>

**"အောင်ဖြိုးမြတ် ကုမ္ပဏီလီမိတက်"** **(Aung Phyo Myat Company Limited.)**သည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် (ကြို့ကုန်း)၊ ငါးလုပ်ငန်းဦးစီးဌာနဝင်းအတွင်းရှိ၊ ငါးလုပ်ငန်းဦးစီးဌာန**(MICA)**ပိုင်၊ မြေကွက်အမှတ် (၃)၊ မြေ(၂. ၀၆)ဧကကို ငှားရမ်း၍ ငါးတင်ငါးချ ဆိပ်ခံတံတား၊ ငါးဈေး အထောက်အကူပြု အဆောက်အဦးများတည်ဆောက်ပြီး လုပ်ငန်းများ လုပ်ကိုင်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အဆောက်အဦးများအတွင်း သန့်စင်ခန်းများ ထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ ဆိပ်ခံတံတားနှင့် အဆောက်အဦး ပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များမရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန် အောင်ပြုပြင်ခြင်း လုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါကြောင်းနှင့် လုပ်ငန်းမှ ထွက်ရှိမည့် ရေဆိုးများကိုစနစ်တကျ စွန့်ပစ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

ဆိပ်ခံတံတားနှင့်အဆောက်အဦးပတ်ဝန်းကျင်တွင် ဆူညံမှုဖြစ်ပေါ်မည်မဟုတ်ပဲ ပတ်ဝန်းကျင် ညစ်ညမ်းမှုကိုလည်း ဖြစ်ပေါ်မည်မဟုတ်ကြောင်းနှင့် အဆောက်အဦးများမှ ထွက်ရှိလာသော အမှိုက်များကိုလည်းစနစ်တကျ စွန့်ပစ်မည်ဖြစ်ပါကြောင်းနှင့် လုပ်ငန်းမှဖြစ်ပေါ်လာမည့်အနံ့ဆိုးများ ပျောက်ကင်းစေရန် အပင်များစိုက်ပျိုးထားရှိမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

MAUNG MAUNG SOE
MANAGING DIRECTOR
AUNG PHYO MYAT CO.,LTD.

# AUNG PHYO MYAT

## COMPANY LIMITED

Building-6, Room No.102, Nyaung Tan Road, Nyaung Tan Housing, Pazundaung Township, Yangon, Myanmar.

Ph: 09-8640118, 09-5185085, 09-5185088


## <u>အခွန်ငွေပေးဆောင်ရန်နှင့် ပတ်သက်၍ကတိဝန်ခံချက်</u>

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **“အောင်ဖြိုးမြတ် ကုမ္ပဏီလီမိတက်” (Aung Phyo Myat Company Limited.)** သည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် (ကြို့ကုန်း)၊ ငါးလုပ်ငန်းဦးစီးဌာနဝင်းအတွင်းရှိ ငါးလုပ်ငန်းဦးစီးဌာန**(MICA)**ပိုင်၊ မြေကွက်အမှတ် (၃)၊ မြေ(၂. ၀၆)ဧကကို ငှားရမ်း၍ ငါးတင် ငါးချ ဆိပ်ခံတံတား၊ ငါးဈေး အထောက်အကူပြု အဆောက်အဦးများတည်ဆောက်ပြီး လုပ်ငန်းများ လုပ်ကိုင်ရာတွင် ဝန်ထမ်းခန့်ထားရာ၌ တစ်နှစ်လျှင် လစာငွေ ကျပ် ၂,၀၂၀,၀၀၀/ အထက်ရရှိသော ဝန်ထမ်းများ၏ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထား အတိုင်း ဝန်ထမ်းများ၏ လစာမှနုတ်ယူ၍ နိုင်ငံတော်သို့ပေးဆောင်သွားမည်ဟု ဝန်ခံကတိပြုပါ သည်။

လေးစားစွာဖြင့်

MAUNG [illegible]

MANAGING DI[illegible]

[illegible] MYAT [illegible]

# MICA GYO GONE JETTY AND FISH MARKET PROJECT

ဆေးဝါးစက်ရုံလမ်း

စုစုပေါင်းမြေဧရိယာ ၂.၀၆ ဧက

ဘုရင့်နောင်လမ်း

ဘုရင့်နောင်လမ်း





(Ye Yint Aung)
Project Engineer
Triton Power Co., Ltd.

# ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ လှိုင်မြစ်အရှေ့ဘက်ကမ်းနဖူးရှိ မြေနေရာကို ကျောထောက်နောက်ခံပြု၍ ကွန်ကရစ်ဆိပ်ခံတံတား(၂)စင်း တည်ဆောက်ခြင်းအတွက်

## မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

## မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ

## (MICA)

တို့အကြားချုပ်ဆိုသည့်

မြေငှားစာချုပ်

(မူကြမ်း)

၂၀၁၆ ခုနှစ်၊ ဇွန် လ ရက်

## ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ လှိုင်မြစ်အရှေ့ဘက်ကမ်းနဖူးရှိ ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော မြေနေရာကို ကျောထောက်နောက်ခံပြု၍ ကွန်ကရစ်ဆိပ်ခံတံတား(၂)စင်း တည်ဆောက်ခြင်းအတွက်

## မြေငှားစာချုပ်

ဤမြေငှားစာချုပ်ကို ၂၀၁၆ ခုနှစ်၊ ဇွန် လ၊ ( )ရက်နေ့တွင် ရန်ကုန်မြို့၌ ဦးသန်းနိုင်ဦး ဒု-အထွေထွေမန်နေဂျာ (ကုန်လုပ်ငန်း)၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ကိုယ်စားပြုသော (နောင်တွင် **"မြေငှားရမ်းသူ"** ဟု ခေါ်တွင်ရမည်ဖြစ်ပြီး အဆိုပါစကားရပ်၌ ယင်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်။) က တစ်ဖက်နှင့် ဦး ၊ နိုင်ငံသားမှတ်ပုံတင်အမှတ် (၁၂/ ) မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA) ကိုယ်စားပြုသော (နောင်တွင် **"မြေငှားချထားခြင်းခံရသူ"** ဟု ခေါ်တွင်ရမည်ဖြစ်ပြီး အဆိုပါစကားရပ်၌ ယင်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်။)က တစ်ဖက်တို့သည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ လှိုင်မြစ်အရှေ့ဘက်ကမ်းရှိ ဆိပ်ကမ်းပိုင်မြေနေရာကို ကျောထောက်နောက်ခံပြု၍ ကွန်ကရစ်ဆိပ်ခံတံတား (၂)စင်း တည်ဆောက်ပြီး ဆိပ်ကမ်းလုပ်ငန်းဆောင်ရွက်ရန် အောက်ဖော်ပြပါစည်းကမ်းချက်များနှင့်အညီ ဤသဘောတူစာချုပ်ကို နှစ်ဦးနှစ်ဖက်သဘောတူ လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည် -

၁။ **"မြေငှားရမ်းသူ"** သည် ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော လှိုင်မြစ်အရှေ့ဘက်ကမ်းနဖူးရှိ မြေနေရာကို ပိုင်ဆိုင်သူဖြစ်သည့်အပြင် ၎င်းဆိပ်ကမ်းမြေနေရာပေါ်တွင် ကွန်ကရစ် ဆိပ်ခံတံတား(၂)စင်း တည်ဆောက်၍ ဆိပ်ကမ်းလုပ်ငန်းများဆောင်ရွက်ခြင်းကို စီမံကွပ်ကဲရန် အခွင့်အာဏာအပ်နှင်းခြင်းခံရသူဖြစ်ပြီး **"မြေငှားချထားခြင်းခံရသူ"** သည် ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံ၏ တည်ဆဲတရားဥပဒေအရဖွဲ့စည်းထားသော MICA မှ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်သည့်အပြင် ဤသဘောတူစာချုပ်ကို ချုပ်ဆိုရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူများဖြစ်ကြကြောင်း အသီးသီးကိုယ်စားပြုသော အာမခံချက်ပေးပါသည်။

၂။ ဤသဘောတူစာချုပ်ပါ **"မြေငှားချထားခြင်းခံရသူ"** မှ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ လှိုင်မြစ်အရှေ့ဘက်ကမ်းရှိ ပူးတွဲ(က)တွင် ဖော်ပြထားသော မြေနေရာတွင် MICA မှ ငါး၊ ပုဇွန်နှင့် ရေထွက်ပစ္စည်းများတင်ပို့နိုင်ရေးအတွက် ငါးဖမ်းရေယာဉ်များနှင့် မြစ်ဝကျွန်းပေါ်သွား ငါး/ ပုဇွန် ကုန်တင်ရေယာဉ်များဆိုက်ကပ်အသုံးပြုရန်အတွက် ပူးတွဲ(ခ)တွင် ဖော်ပြထားသည့်အတိုင်း ၄၀၁'x၁၃၂' အရွယ်နှင့် ၁၆၂'x၁၃၂' ဆိပ်ခံတံတားနှင့် ၁၈' x ၉၆' ချဉ်းကပ်(၂)လက်တို့ပါဝင်သော သံကူကွန်ကရစ်ဆိပ်ခံတံတား(၂)စင်း တည်ဆောက်အသုံးပြုခြင်းစသည့် ဆိပ်ကမ်းလုပ်ငန်း

စတင်ဆောင်ရွက်သည့်နေ့ (သို့မဟုတ်) ဤသဘောတူ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ ဆိပ်ကမ်းလုပ်ငန်း လုပ်ကိုင်ခွင့်ကာလသက်တမ်းကို ကနဦး(၅)(ငါး)နှစ်နှင့် နောက်ထပ်(၅)(ငါး)နှစ် (၁)(တစ်)ကြိမ် သက်တမ်းတိုးမြှင့်ခွင့်ပြုပြီး ယင်းကာလသက်တမ်းအတွင်း **"မြေငှားရမ်းသူ"** က **"မြေငှားချထားခြင်းခံရသူ"** သို့ ဆိပ်ကမ်းလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရမည်။

၃။ ဤစာချုပ်၏ သက်တမ်းမှာ ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့် ( - ၆-၂၀၁၆) ရက်နေ့မှစ၍ တစ်နှစ်စေ့ရောက်သည့်နေ့ (သို့မဟုတ်) ဆိပ်ကမ်းလုပ်ငန်းဆောင်ရွက်သည့်နေ့ ဤနေ့ နှစ်ရပ်အနက်စောရာကာလမှစ၍ (၅) (ငါး)နှစ်ဖြစ်သည်။

၄။ **"မြေငှားချထားခြင်းခံရသူ"** သည် ဤသဘောတူစာချုပ်ပူးတွဲ(ခ)ပါ ပုံစံဒီဇိုင်းအတိုင်း ဆိပ်ခံတံတား (၂)လက်ကို ငွေကျပ် (၂,၃၂၇,၁၀၀,၀၀၀/-) (ကျပ်နှစ်ထောင့်သုံးရာနှစ်ဆယ့်ခုနှစ်သန်းတစ်သိန်းတိတိ)ခန့် ပူးတွဲ (ဂ) အကုန်အကျခံ၍ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှ (၁)(တစ်)နှစ်အတွင်း အပြီးဆောက်လုပ်ရမည်။ အဆိုပါ ကွန်ကရစ်ဆိပ်ခံတံတား(၂)စင်း၏ တည်ဆောက်ရေးကာလကို ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီး (၁)(တစ်)နှစ်ဟု သတ်မှတ်မည်ဖြစ်ပြီး **"မြေငှားရမ်းသူ"** က အဆိုပါတည်ဆောက်ရေးကာလ(၁)(တစ်)နှစ်စာအတွက် မြေငှားရမ်းခကို ရယူခြင်းမပြုဘဲကင်းလွတ်ခွင့် ပြုရမည်။

၅။ **"မြေငှားချထားခြင်းခံရသူ"** သည် ကွန်ကရစ်ဆိပ်ခံတံတား(၂)စင်းအတွက် လစဥ်မြေငှားရမ်းခအဖြစ် {(၄၀၁' + ၁၂' + ၁၆၂') x ၁၃၂'} = ၇၅၉၀၀ စတုရန်းပေ (သို့မဟုတ်) ၇၀၅၀.၆၅ စတုရန်းမီတာ) အတွက် ၁ စတုရန်းမီတာလျှင် ၅၀၀/- နှုန်းဖြင့် ငွေကျပ် ၃၅,၂၆,၀၀၀/- (ကျပ် သုံးဆယ့် ငါးသိန်း နှစ်သောင်း ခြောက်ထောင် တိတိ) သတ်မှတ်ပြီး (၃)(သုံး)လ တစ်ကြိမ် ကြိုတင်ပေးသွင်းသည့်စနစ်ဖြင့် ပေးသွင်းရမည်။ ပထမအကြိမ်(၃)လအတွက် မြေငှားရမ်းခကို လက်မှတ်ရေးထိုး ပြီးသည့်နေ့မှစ၍ ရက်သတ္တတစ်ပတ်အတွင်း ပေးဆောင်ရမည်။ နောက်ကျပေးသွင်းပါက ပထမလအတွက် လစဥ်မြေငှား ရမ်းခ၏ (၅ %) ကိုလည်းကောင်း၊ ဒုတိယလအတွက် လစဥ်မြေငှားရမ်းခ၏ (၁၀ %)ကို လည်းကောင်း၊ တတိယလအတွက် လစဥ်မြေငှားရမ်းခ၏ (၁၅ %) ကို လည်းကောင်း ဒဏ်ကြေးအဖြစ် ပေးဆောင်ရမည် ဖြစ်သည်။

၆။ လစဥ်ငှားရမ်းခနှုန်းထားကို နောက်ထပ် ၅(ငါး)နှစ်တစ်ကြိမ်အတွက် ပြန်လည်စိစစ်ပြီး ယခင်ငှား ရမ်းခ၏ (၁၅%)ထက် မများစေဘဲ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် နှစ်ဦးနှစ်ဖက်ညှိနှိုင်း တိုးမြှင့်နိုင်သည်။

၇။ လစဉ်မြေငှားရမ်းခအပြင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသည့် ကွန်ကရစ်တံတားသို့ ရေယာဉ်များဆိုက်ကပ်ခြင်းအတွက် တံတားကပ်ခတစ်ဝက်ကို **"မြေငှားရမ်းသူ"** မှ ကောက်ခံခွင့်ရှိရမည်။

၈။ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလကုန်ဆုံးသည့်နေ့ (သို့မဟုတ်)စာချုပ်ရပ်စဲသည့်နေ့မှ (၃၀)(သုံးဆယ်)ရက်အတွင်း အဆိုပါကွန်ကရစ်ဆိပ်ခံတံတားကို ကောင်းမွန်သောအနေအထားအတိုင်း **"မြေငှားချထားခြင်းခံရသူ"** က **"မြေငှားရမ်းသူ"** သို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရန် သဘောတူပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်းတိုးမြှင့်လိုပါက သဘောတူစာချုပ်သက်တမ်းမကုန်ဆုံးမီ(၆)လအတွင်း နှစ်ဖက်ညှိနှိုင်းသဘောတူမည့် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်းနှုန်းထားများနှင့် အညီ ကွန်ကရစ်ဆိပ်ခံတံတားကို **"မြေငှားရမ်းသူ"** သို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးပြီးမှသာ ငှားရမ်းခနှုန်းထားပြောင်းလဲသက်မှတ်၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ခွင့်ပြုချက်နှင့်အညီ ပြန်လည်ငှားရမ်းခွင့် ပြုသွားမည်ဖြစ်ပါသည်။

၉။ **"မြေငှားချထားခြင်းခံရသူ"** သည် ဤသဘောတူစာချုပ်ချုပ်ဆိုပြီး (၁)(တစ်)လအတွင်း ကြိုတင်စည်းကမ်းချက်များမပါရှိသော ပြန်လည်ရုတ်သိမ်းခွင့်မရှိသည့် လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ငွေကျပ် (၂၃.၂၇၀ သန်း) (ကျပ် နှစ်ဆယ့် သုံးသန်း နှစ်သိန်း ခုနှစ်သောင်း တိတိ)ကို **"မြေငှားရမ်းသူ"** အမည်ဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအတွင်းရှိ အစိုးရဘဏ်တစ်ခုခုတွင် ထားရှိရမည်ဖြစ်ပြီး၊ အဆိုပါဘဏ်အာမခံသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ (၁)(တစ်)နှစ်အထိ တည်ရှိစေရမည်။ ဘဏ်အာမခံကို **"မြေငှားရမ်းသူ"** ထံတင်ပြရမည်။ ဘဏ်အာမခံကို တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ပြီးစီးပါက **"မြေငှားချထားခြင်းခံရသူ"** ထံ ပြန်လည်ထုတ်ပေးရမည်။ **"မြေငှားချထားခြင်းခံရသူ"** သည် စာချုပ်လက်မှတ်ရေးထိုးပြီး(၁)(တစ်)နှစ်အတွင်း အထက်စာပိုဒ်(၃)ပါ တည်ဆောက်ရေးလုပ်ငန်းများကို အပြီးဆောက်လုပ်ရန်အပါအဝင် စာချုပ်စည်းကမ်းကို လိုက်နာရန်ပျက်ကွက်ပါက ဘဏ်အာမခံငွေကို **"မြေငှားရမ်းသူ"** က သိမ်းယူရမည်။

၁၀။ **"မြေငှားချထားခြင်းခံရသူ"** သည် လုပ်ငန်းဆောင်ရွက်ခွင့်ရသည့် ကွန်ကရစ်ဆိပ်ခံတံတားတွင် **"မြေငှားရမ်းသူ"** ၏ တရားဝင်စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရရှိဘဲ အခြားမည့်သည့် စီးပွားရေးလုပ်ငန်းများအတွက်မျှ အသုံးမပြုရန် တာဝန်ယူပါသည်။

၁၁။ **"မြေငှားချထားခြင်းခံရသူ"** သည် လုပ်ငန်းဆောင်ရွက်ခွင့်ရသည့် လုပ်ငန်းနယ်မြေတဝိုက်တွင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် လေထု၊ ရေထုနှင့် မြေထုညစ်ညမ်းမှု မရှိစေရေးအတွက် တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။ ကွန်ကရစ်ဆိပ်ခံတံတားတည်ဆောက်ခြင်းကြောင့် မြစ်ကူးတံတားများကို တိုက်ရိုက်သော်လည်းကောင်း၊ သွယ်ဝိုက်သောနည်းဖြင့်လည်းကောင်း လုံးဝ(လုံးဝ)မထိ

ခိုက်စေရ၊ မြစ်ကူးတံတားများကို တစ်စုံတစ်ရာထိခိုက်မှုရှိလာပါက အထက်အဖွဲ့အစည်းများနှင့် **"မြေငှား ရမ်းသူ"** ၏ ညွှန်ကြားချက်များအတိုင်း တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၁၂။ **"မြေငှားချထားခြင်းခံရသူ"** သည် ပြည်သူ့လွှတ်တော်မှ ၂၀၁၅ ခုနှစ်တွင် ပြဋ္ဌာန်းလိုက်သော မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ဥပဒေအား တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၁၃။ **"မြေငှားချထားခြင်းခံရသူ"** သည် မိမိလုပ်ဆောင်ခွင့်ရရှိသည့် ကွန်ကရစ်ဆိပ်ခံတံတား နယ်မြေတွင် သန့်ရှင်းရေးဆောင်ရွက်မှုများ၊ မီးဘေးကြိုတင်ကာကွယ်ရေးဆောင်ရွက်မှုများကို မိမိစရိတ်ဖြင့် တာဝန်ယူဆောင်ရွက်ရမည်။ မီးလောင်လွယ်သော အမှိုက်သရိုက်များ၊ ပစ္စည်းအတိုအစများစုပုံထားခြင်းမပြုရ။ မီးလောင်လွယ်သော ဓါတ်ဆီ၊ ဒီဇယ်ဆီနှင့် စက်သုံးဆီများ၊ Gas ဓါတ်ငွေ့အိုးများ၊ မီးသွေးအိတ်များ သိုလှောင်ထားရှိခြင်း၊ ရောင်းချခြင်းမပြုရ။ ထို့အပြင် မီးဘေးအန္တရာယ်ဖြစ်စေနိုင်သော ပစ္စည်းများဖြစ်သည့် တင်ဒါရည်ပုံးများ၊ အက်ဆစ်ပုံးများ၊ ဓါတုဗေဒပစ္စည်းများ၊ လူသုံးကုန်ပစ္စည်းများ၊ ပရဆေးစသည့်ပစ္စည်းများအပါအဝင် မီးလောင်လွယ်သော ပစ္စည်းများထားရှိ သိုလှောင်ခြင်းမပြုရ။ (လူသုံးကုန်ပစ္စည်းဟုခေါ်ဆိုရာတွင် မီးလောင်လွယ်ပြီး ပေါက်ကွဲစေနိုင်သည့် လူသုံးကုန်ပစ္စည်းများကိုဆိုလိုသည်။)

၁၄။ **"မြေငှားချထားခြင်းခံရသူ"** သည် လုပ်ငန်းဆောင်ရွက်ခွင့်ရသည့် ကွန်ကရစ်ဆိပ်ခံတံတား၏ နယ်မြေတွင် မီးဘေးကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဦးစီးဌာန၏ သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ လုံခြုံရေးနှင့် မီးဘေးကြိုတင်ကာကွယ်ရေးအတွက် အခါအားလျော်စွာဌာနမှ ထုတ်ပြန်သော ညွှန်ကြားချက်များကိုလည်း တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၁၅။ မီးလောင်ပေါက်ကွဲပျက်စီးဆုံးရှုံးမှုများဖြစ်ပွားပါက **"မြေငှားချထားခြင်းခံရသူ"** ၏ တာဝန်သာဖြစ်သည်။ ထို့ကြောင့် မီးလောင်ပေါက်ကွဲပျက်စီးဆုံးရှုံးမှုများဖြစ်ပွားပါက ပျက်စီးဆုံးရှုံးမှုတန်ဘိုးကို **"မြေငှားချထားခြင်းခံရသူ"** က ပေးလျော်ရမည်။

၁၆။ **"မြေငှားချထားခြင်းခံရသူ"** သည် အငှားချထားသော နယ်မြေအတွင်းရှိ ကွန်ကရစ်ဆိပ်ခံတံတားကို ဒေသဆိုင်ရာအဖွဲ့အစည်း၊ ပုဂ္ဂိုလ်များနှင့် **"မြေငှားရမ်းသူ"** တို့၏ အခါအားလျော်စွာ စစ်ဆေးခြင်းကို ခွင့်ပြုရမည်။ ထိုသို့ စစ်ဆေးစဥ်နယ်မြေသန့်ရှင်းမှုမရှိခြင်း၊ မီးဘေးလုံခြုံရေးကိစ္စများအတွက် လုပ်ဆောင်ချက်များကိုဆောင်ရွက်ရန် ညွှန်ကြားချက်များရှိပါက ၎င်းညွှန်ကြားချက်များကို လိုက်နာရမည်။ ကုန်ကျစရိတ်ကို **"မြေငှားချထားခြင်းခံရသူ"** က ကျခံရမည်။

၁၇။ **"မြေငှားချထားခြင်းခံရသူ"** သည် အငှားချထားသည့်နေရာတွင် သင်္ဘောတူစာချုပ်ပါလုပ်ငန်းဆောင်ရွက်နေစဥ်ကာလအတွင်း မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက် သယံ

ဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများနှင့် ရွှေ၊ ငွေ၊ ကျောက်မျက်ရတနာများတွေ့ရှိပါက **"မြေငှားရမ်းသူ"** ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါ သယံဇာတပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများဖြစ်စေရမည်။ **"မြေငှားရမ်းသူ"** သည် အဆိုပါ သယံဇာတပစ္စည်းများကို လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေရမည်။

၁၈။ **"မြေငှားချထားခြင်းခံရသူ"** သည် မြန်မာ့အာမခံဥပဒေနှင့်အညီ လိုအပ်သောအာမခံများကို မိမိစရိတ်ဖြင့် ထားရှိရမည်။ အာမခံထားရှိရေး ဆောင်ရွက်ပြီးစီးမှုအခြေအနေကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင် အမှုဆောင်အရာရှိချုပ်ထံ တင်ပြရမည်။

၁၉။ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီး စာချုပ်အကျိုးသက်ရောက်မှုရှိသည့်နေ့မှစ၍ စည်ပင်သာယာခွန်နှင့် အခြားအခွန်အခများကို **"မြေငှားချထားခြင်းခံရသူ"** က ပေးဆောင်ရမည်။

၂၀။ ဤသဘောတူစာချုပ်အရ အငှားချထားခံရသည့် မြေနေရာတွင် တည်ဆောက်ထားသော ကွန်ကရစ်ဆိပ်ခံတံတား(၂)စင်းအား အခြားကိစ္စရပ်များအတွက် အသုံးပြုခြင်း၊ အခြားပုဂ္ဂိုလ်/ အဖွဲ့အစည်းများသို့ အသုံးပြုခွင့်ပေးခြင်း၊ လွှဲပြောင်းပေးခြင်း၊ ပြင်ဆင်ခြင်း၊ ပြောင်းလဲမှုပြုလုပ်ခြင်းစသည် တို့ကိုမပြုရ။ ယင်းကိစ္စရပ်များကို ဆောင်ရွက်လိုပါက ထိုသို့ဆောင်ရွက်လိုသည့် လုပ်ငန်းမစမီ **"မြေငှားရမ်းသူ"** ထံသို့ ပုံစံနှင့်တကွစာဖြင့် ကြိုတင်တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှ ဆောင်ရွက်ရမည်။

၂၁။ လုပ်ငန်းဆောင်ရွက်သည့် ပတ်ဝန်းကျင်နယ်မြေတွင် လုပ်ငန်းဆောင်ရွက်ရာ၌ လုပ်ငန်းတူများ၏ ကူးသန်းသွားလာမှု၊ သယ်ယူပို့ဆောင်မှု၊ လုပ်ငန်းဆောင်ရွက်မှုတို့ကို ထိပါးနှောင့်ယှက်မှုမရှိစေဘဲ တည်ဆဲဥပဒေများ၊ အမိန့်များ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၂၂။ ဤသဘောတူစာချုပ်ကြောင့်သော်လည်းကောင်း၊ ဤသဘောတူစာချုပ်နှင့် ဆက်နွယ်၍သော် လည်းကောင်း ဖြစ်ပေါ်လာသည့် မည်သည့်အငြင်းပွားမှုကိုမဆို စေ့စပ်ဆွေးနွေးခြင်းဖြင့် နှစ်ဦးနှစ်ဖက် စိတ်ကောင်းစေတနာထား၍ အေးငြိမ်းစွာသဘောတူညီချက်ရရှိသည်အထိ ဖြေရှင်းဆောင်ရွက်ရန်နှစ်ဖက် သဘောတူညီကြပါသည်။ **"မြေငှားရမ်းသူ"** နှင့် **"မြေငှားချထားခြင်းခံရသူ"** တို့က အငြင်းပွားမှုများကို အထက်ပါအတိုင်း ချစ်ကြည်ရင်းနှီးစွာ ဖြေရှင်းဆောင်ရွက်မှုမပြုနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကို ခံယူရမည်။

၂၃။ ဤသဘောတူစာချုပ်အရဆောင်ရွက်ရမည့် တာဝန်များပျက်ကွက်ခြင်း၊ နှောင့်နှေးကြန့်ကြာခြင်း သည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့်ဖြစ်ပါက ကင်းလွတ်ခွင့်ပြုရမည်။ မလွန်ဆန်နိုင်သော ဖြစ်ရပ် ကြောင့် သဘောတူစာချုပ်ဝင်တစ်ဖက်စီမှ မိမိဆောင်ရွက်ရမည့် တာဝန်အားလုံးဖြစ်စေ၊ တစ်စိတ်တစ် ဒေသဖြစ်စေ ဆောင်ရွက်ခြင်းမှ ခေတ္တဆိုင်းငံ့ရမည့် အခြေအနေပေါ်ပေါက်လျှင် နစ်နာသူသဘောတူ စာချုပ်ဝင်တစ်ဖက်က အခြားတစ်ဖက်သို့ အဆိုပါ ဖြစ်ရပ်ပေါ်ပေါက်ပြီးနောက် (၁၄)ရက်အတွင်းစာဖြင့်

အကြောင်းကြားရမည်။ အခြားတစ်ဖက်က အဆိုပါဖြစ်ရပ်ပေါ်ပေါက်ခြင်းကို လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ပြောက်ပြီး ယင်းကာလကို သဘောတူစာချုပ်သက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်းမပြုရမည့်အပြင် အဆိုပါဖြစ်ရပ်ကြောင့်ပေါ်ပေါက်လာသော ကြန့်ကြာမှု၊ ဆုံးရှုံးမှုများကြောင့် မည်သည့်ဘက်တွင်မှ တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ ငလျင်လှုပ်ခြင်း၊ မြေပြိုခြင်းစသည့် သဘာဝဘေးအန္တရာယ်များ၊ အလုပ်သမားများ၏ နှောက်ယှက်မှု၊ ပိတ်ဆို့မှု၊ ကူးစက်ရောဂါကျရောက်မှု အစရှိသည့် နှစ်ဦးနှစ်ဖက်တို့ ကြိုးပမ်းအားထုတ်မှုဖြင့် တားဆီးမရနိုင်သော အလားတူဖြစ်ရပ်များပါဝင်ပါသည်။

၂၄။ စာချုပ်ချုပ်ဆိုချိန်တွင်ရှိသည့် အခြေအနေနှင့်မတူညီသော အခြေအနေတစ်ရပ်ရပ်ပေါ်ပေါက်ပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် စာဖြင့် သဘောတူညီချက်ရယူကာ သဘောတူစာချုပ်ကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ ဖြည့်စွက်ခြင်းပြုလုပ်နိုင်သည်။ ယင်းသို့ပြုလုပ်ခြင်းသည် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့်သာ ဆောင်ရွက်ရမည်။

၂၅။ အောက်ပါအချက်များအနက် အချက်တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက သဘောတူစာချုပ်ဝင်တစ်ဖက်မှ အခြားတစ်ဖက်သို့ ရက်ပေါင်း (၉၀) ကြိုတင်အသိပေးပြီး သဘောတူစာချုပ်ကို ရပ်စဲနိုင်သည်-

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ရပ်စဲခြင်း။

(ခ) **"မြေငှားချထားခြင်းခံရသူ"** သည် သဘောတူစာချုပ်ပါလုပ်ငန်း၌ အဆက်မပြတ်ဆုံးရှုံးမှုပေါ်ပေါက်ခြင်း။

(ဂ) သဘောတူစာချုပ်ဝင်တစ်ဖက်မှ သဘောတူစာချုပ်ပါ စည်းကမ်းကိုဖောက်ဖျက်ခြင်း။

(ဃ) မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည်(၆)(ခြောက်)လထက်ကျော်လွန်၍ တစ်ဆက်တည်းဖြစ်ပွားနေခြင်း။

(င) သဘောတူစာချုပ် သက်တမ်းကုန်ဆုံးခြင်း။

၂၆။ **"မြေငှားချထားခြင်းခံရသူ"** သည် ဤစာချုပ်ပါစည်းကမ်းချက်များကို ဆောင်ရွက်ရန်(သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း **"မြေငှားရမ်းသူ"** က ချအပ်သော နို့တစ်စာပါ ကာလများအတွင်းမဆောင်ရွက်လျှင် (သို့မဟုတ်)ပြင်ဆင်ရန် ပျက်ကွက်လျှင်လည်းကောင်း၊ စာချုပ်သက်တမ်း စေ့ရောက်သည့်နေ့(သို့မဟုတ်)စာချုပ် ရပ်စဲသည့်နေ့(သို့မဟုတ်) လုပ်ငန်းလုပ်ကိုင်ခွင့်ကာလကုန်ဆုံးသည့်နေ့တွင်လည်းကောင်း **"မြေငှားရမ်းသူ"** သည် ဤစာချုပ်နှင့်သက်ဆိုင်သော ပစ္စည်းတစ်ရပ်လုံးအပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိစေရမည်။ ထိုအခါ ဤသဘောတူစာချုပ်သည် ရပ်စဲရမည်ဖြစ်ပြီး ဤစာချုပ်ရပ်စဲခြင်း၊ မြေသို့ပြန်လည်ဝင်ရောက်

နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ **"မြေငှားရမ်းသူ"** က **"မြေငှားချထားခြင်းခံရသူ"** ထံမှ ရရှိမည့် အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

၂၇။ ဤသဘောတူစာချုပ်သည် **"မြေငှားရမ်းသူ"** နှင့် **"မြေငှားချထားခြင်းခံရသူ"** တို့ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့် (    - ၆ - ၂၀၁၆) ရက်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၂၈။ ဤသဘောတူစာချုပ်ပါ နောက်ဆက်တွဲများသည် သဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၂၉။ သဘောတူစာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည် -

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
အမှတ်(၁၀)၊ ပန်းဆိုးတန်းလမ်း၊
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့
ဖုန်း - ၃၈၂၇၂၂၊ ၃၇၉၁၄၂
ဖက်စ် - ၂၄၆၇၈၁

ငါးလုပ်ငန်းဦးစီးဌာန

**"မြေငှားရမ်းသူ"** နှင့် **"မြေငှားချထားခြင်းခံရသူ"** တို့သည် ဤသဘောတူစာချုပ်ကို အထက်ဖော်ပြပါ ၂၀၁၆ ခုနှစ်၊ ဇွန် လ ( ) ရက်နေ့တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ တာဝန်ယူလက်မှတ်ရေးထိုးကြပါသည် -

| **"မြေငှားရမ်းသူ" (ကိုယ်စား)** | | **"မြေငှားချထားခြင်းခံရသူ" (ကိုယ်စား)** | |
|---|---|---|---|
| လက်မှတ်၊ | ------------------ | လက်မှတ်၊ | ---------------------- |
| အမည်၊ | ဦးသန်းနိုင်ဦး | အမည်၊ | |
| ရာထူး၊ | ဒု-အထွေထွေမန်နေဂျာ | ရာထူး၊ | |
| ဌာန၊ | ကုန်လုပ်ငန်းဌာန<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ဌာန၊ | |
| လိပ်စာ၊ | အမှတ်(၁၀)ပန်းဆိုးတန်းလမ်း၊<br>ကျောက်တံတားမြို့နယ်၊<br>ရန်ကုန်မြို့။ | လိပ်စာ၊ | |

**အသိသက်သေများ**

| | | | |
|---|---|---|---|
| လက်မှတ်၊ | --------------------- | လက်မှတ်၊ | --------------------- |
| အမည် ၊ | ဦးစိုးသိန်း | အမည် ၊ | |
| ရာထူး ၊ | မြို့ပြအင်ဂျင်နီယာချုပ် (ပူးတွဲ) | ရာထူး ၊ | |
| ဌာန ၊ | မြို့ပြအင်ဂျင်နီယာဌာန<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင်<br>အမှတ်(၁၀)ပန်းဆိုးတန်းလမ်း<br>ကျောက်တံတားမြို့နယ်၊<br>ရန်ကုန်မြို့။ | ဌာန ၊ | |
| | | လိပ်စာ ၊ | |

## (အငှားချထားသည့်မြေနေရာနှင့် စပ်လျဉ်း၍ ဖော်ပြချက်)

မြေငှားချထားခြင်းခံရသူ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရှိ ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော လှိုင်မြစ်အရှေ့ဘက်ကမ်းနဖူးတွင် တည်ဆောက်မည့် ကွန်ကရစ်ဆိပ်ခံတံတား(၂)စင်း၏ ပုံစံဒီဇိုင်းများကို ပူးတွဲတင်ပြထားသည်။

ဇယား (ခ)

(အထူးစည်းကမ်းချက်များ)

**"မြေငှားချထားခြင်းခံရသူ"** သည် ဤစာချုပ်ပါလုပ်ငန်းဆောင်ရွက်ခြင်းအတွက် ပြည်တွင်းအခွန်ဦးစီးဌာနသို့ တည်ဆဲဥပဒေများအရ ပေးဆောင်ရန်ရှိသော ကုန်သွယ်ခွန်နှင့် တံဆိပ်ခေါင်းခွန်များကို **"မြေငှားချထားခြင်းခံရသူ"** မှ ကျခံပေးဆောင်ရမည်။

25 · 1 · 2016

| ငါးလုပ်ငန်းဦးစီးဌာန | |
|---|---|
| ဝင်စာ | ၁၆၀ |
| ရက်စွဲ | 26 · 1 · 16 |
| အချိန် | ၁း၀၀ |

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၁၁ / နပတ( ၈၄ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ၊ ဇန်နဝါရီလ၂၅ ရက်

အကြောင်းအရာ။ **ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေ(၂.၀၆)ဧကအား အောင်ဖြိုးမြတ်ကုမ္ပဏီသို့ B.O.T စနစ်ဖြင့် မြေငှားရမ်းချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ငါးလုပ်ငန်းဦးစီးဌာန၏ ၂၉-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ငလ/နပတ-၃/ ၂၀၁၅(၈၁၃၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ ငါးလုပ်ငန်းဦးစီးဌာနဝင်းအတွင်းရှိ ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေကွက်အမှတ်(၃) မြေ(၂.၀၆) ဧကအား B.O.T စနစ်ဖြင့် ငှားရမ်းရန်အတွက် မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ(MICA)နှင့် အောင်ဖြိုးမြတ်ကုမ္ပဏီတို့ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် ငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စ ဖြစ်ပါသည်။

၂။ ပေးပို့လာသော စာချုပ် (မူကြမ်း) အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)ပါ ဆောင်ရွက်လုပ်ကိုင်မည့်မြေနေရာကို ငါးလုပ်ငန်းဦးစီးဌာနပိုင်ဟု စာစဉ်တွင်ဖော်ပြထားသော်လည်း ၎င်းမြေအား ငှားရမ်းလက်မှတ်ရေးထိုးမည့်စာချုပ်ဝင်ဌာနမှာ မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ(MICA)၏ Chief Officer ဖြစ်ကြောင်း ဖော်ပြတွေ့ရှိချက်များ

လျှို့ဝှက်

M-017/E/UHZW/ Aung Phyo Myat Co., Ltd (18-1-2016).

အရ MICA အနေဖြင့် ယင်းမြေငှားရမ်းချုပ်ဆိုပိုင်ခွင့်ကို လွှဲပြောင်းရရှိထားကြောင်း၊ ပိုင်ဆိုင်ခွင့်အားလွှဲပြောင်းရရှိထားကြောင်း၊ လက်မှတ်ရေးထိုးချုပ်ဆိုပိုင်ခွင့်ရှိကြောင်း စသည့်အထောက်အထားများက ယခုစာချုပ်(မူကြမ်း)၏ နောက်ဆက်တွဲအဖြစ် ပူးတွဲဖော်ပြရန်လိုအပ်ပါသည်။ ယင်းစာရွက်စာတမ်းထောက်အထားများသည် သက်ဆိုင်ရာဌာနမှ တရားဝင်ထုတ်ပြန်ပေးထားသော အထောက်အထားစာရွက်စာတမ်းများဖြစ်ရန် လိုအပ်ပါသည်။ ထိုသို့ဆောင်ရွက်ပြီးမှသာ စာချုပ်(မူကြမ်း)၏ အပိုဒ် ၁-၁ နှင့် ၂-၁ တို့တွင် “××××× တရားဝင်ပိုင်ဆိုင်သူဖြစ်ကြောင်း××××× ”ကို ဖော်ပြသင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၏မျက်နှာဖုံးနှင့်ခေါင်းစဉ်တို့၌ B.O.T စနစ်ဖြင့်ငှားရမ်းခြင်းသဘောတူစာချုပ်ဟုဖော်ပြထားသော်လည်းစာချုပ်(မူကြမ်း)တွင်B.O.T စနစ်နှင့်သက်ဆိုင်သည့်စည်းကမ်းချက်များဖော်ပြထားခြင်းမရှိဘဲမြေငှားရမ်းခြင်းနှင့်သက်ဆိုင်သည့်စည်းကမ်းချက်များဖြစ်ကြောင်းတွေ့ရှိရပါသည်။သို့ပါ၍ B.O.Tစာချုပ်အားသီးခြားချုပ်ဆိုရန်လိုအပ်ပြီး၊B.O.Tစာချုပ်ပါစည်းကမ်းချက်များသည်မြေငှားစာချုပ်(မူကြမ်း)ပါစည်းကမ်းချက်များနှင့်ညီညွတ်ရန်လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၁-၁ တွင် ဖော်ပြထားသော နောက်ဆက်တွဲ(၁)မြေပုံနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဦးစီးဌာနက တရားဝင်ရေးဆွဲထားသောမြေပုံဖြစ်ရန်လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၅-၁ တွင် “စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ (၃၁-၃-၂၀၁၆) နေ့အထိကာလကို လုပ်ငန်းပြုပြင်တည်ဆောက်မှုများ ပြုလုပ်ရန်စမ်းသပ်ကာလအဖြစ် သတ်မှတ်သည်” ဟုလည်းကောင်း၊ စာချုပ်(မူကြမ်း) အပိုဒ် ၇-၄ တွင် “ငှားရမ်းခပေးချေရန်မလိုသောကာလအား

၂၀၁၅-၂၀၁၆" ဟုလည်းကောင်း၊ သတ်မှတ်ထားရာ လုပ်ငန်းပြုပြင်တည်ဆောက်ရေးကာလမှာ စာချုပ်လက်မှတ်ရေးထိုးခြင်း မပြုမီကပင် စတင်နေသည့်သဘောသက်ရောက်နေပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် တည်ဆောက်ရေးကာလ သတ်မှတ်ချက်အား တိကျစွာဖော်ပြရန် လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၈၊ အပိုဒ်ခွဲ (၂)၊ (၅) နှင့် အပိုဒ် ၁၅ တို့တွင် ဖော်ပြထားသော "ထည့်ဝင်ထားသည့်မြေ"ဆိုသည့်နေရာတွင် "အငှားချထားသည့်မြေ"ဟုဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၉၊ အပိုဒ်ခွဲ(ဂ)တွင် "စာချုပ်ပါလုပ်ငန်းများကို စတင်ဆောင်ရွက်မည့်နေ့ရက်ကိုသာ ဖော်ပြထားပါသည်။ လုပ်ငန်းပြီးစီးရမည့်နေ့ရက်ကိုလည်း တိကျစွာဖော်ပြသတ်မှတ်သင့်ပါသည်။ ထို့အပြင် သတ်မှတ်ရက်အတွင်း ပြီးစီးအောင်ဆောင်ရွက်နိုင်ခြင်းမရှိပါက မည်သို့ဆောင်ရွက်မည်ဖြစ်ကြောင်းစသည့် စည်းကမ်းချက်များကိုသတ်မှတ်သင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)၏ အပိုဒ် ၁၇ တွင် အငြင်းပွားမှုဖြေရှင်းခြင်းနည်းလမ်းမှာ "၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ"ဟုဖော်ပြထားပါသည်။ ယင်းဥပဒေအား (၅-၁-၂၀၁၆) ရက်နေ့တွင် ပြဋ္ဌာန်းခဲ့သည့် ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်- ၅ ဖြင့် ရုပ်သိမ်းပြီးဖြစ်၍ အသစ်ပြဋ္ဌာန်းထားသော "အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေ"နှင့်အညီ အငြင်းပွားမှုဖြေရှင်းခြင်းနည်းလမ်းကို ဆောင်ရွက်သင့်ပါသည်။ Slip ကပ်ပေးလိုက်ပါသည်။ ဌာနမှ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊


M-017/E/UHZW/ Aung Phyo Myat Co., Ltd (18-1-2016).

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၁၉၊ လျှို့ဝှက်ချက်တွင် "××××× ကုမ္ပဏီအကျိုးစီးပွားအလို့ငှာ ××××× လွှဲပြောင်းပေးနိုင်ခွင့်ရှိစေရမည်"ဟုဖော်ပြထားပါသည်။ စာချုပ်ဝင်နှစ်ဖက်မှ လိုက်နာရမည့်စည်းကမ်းချက်အား ကုမ္ပဏီမှ ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်အရ ဆောင်ရွက်နိုင်ကြောင်း ဖော်ပြချက်မှာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ်၂၁ တွင် "××××× အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ဖြစ်စေ အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေရေးသား၍ တစ်ဖက်သို့ချက်ချင်းအသိပေးအကြောင်းကြားရမည်"ဟုဖော်ပြထားရာ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၄၅၀ တွင် ရုံးသုံးဘာသာစကားမှာ မြန်မာဘာသာဖြစ်သည်ဟု ပြဋ္ဌာန်းထားခြင်း၊ တစ်ဖက်စာချုပ်ဝင်ကုမ္ပဏီသည် မြန်မာနိုင်ငံသားဖြစ်ခြင်းတို့ကြောင့် မြန်မာဘာသာဖြစ်သော ဆက်သွယ်အကြောင်းကြားသင့်သည်ဟု ယူဆပါသည်။ ထို့ပြင် နှစ်ဖက်စာချုပ်ဝင်များ၏ တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ်၊ အီးမေးလ်လိပ်စာအပြည့်အစုံတို့ကို စာချုပ်ချုပ်ဆိုချိန်၌ ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း)တွင် မြေငှားရမ်းခြင်းသက်တမ်းနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်း စည်းကမ်းချက်မပါရှိသဖြင့် ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) ရှိ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖော်ပြထားရန်လိုအပ်ပါသည်၊

(ဌ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ အစိုးရတံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည် ဖြစ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းရန် အကြံပြုပါသည်။

၅။ အောင်ဖြိုးမြတ်ကုမ္ပဏီလီမိတက်သည် ဥပဒေအရတရားဝင်ဖွဲ့စည်းထားသည့်ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့ကို ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ စာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ (၃) စုံ ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၇။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

(ကျော်ဆန်း)

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

ငါးလုပ်ငန်းဦးစီးဌာန၊

မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ



M-017/E/UHZW/ Aung Phyo Myat Co., Ltd (18-1-2016).



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၂၂/၂၅၇/အဖရ (၁၆/၂၀၁၅)။
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၂၄ ရက်။

အ မှာ စာ

အကြောင်းအရာ။ မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ ဒါရိုက်တာအဖွဲ့ ဖွဲ့စည်းခွင့်ပြုပါရန် တင်ပြခြင်း။

၁။ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၃ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၆/၂၀၁၅) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

ပြည်ထောင်စုဝန်ကြီး
မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

၂၂။ မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ ဒါရိုက်တာအဖွဲ့ ဖွဲ့စည်းခွင့်ပြုပါရန် တင်ပြခြင်း။

မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက် နေ့စွဲပါ အမှာစာ အမှတ်၊ ၆/၂၀၀၀/ မွေးရေကျေး (၁၅/၂၀၁၅)။

မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ (MICA)၏ ရည်ရွယ်ချက်များ၊ လုပ်ငန်းစဉ်များအကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်နှင့် ကြီးကြပ်ဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံတကာပူးပေါင်းဆောင်ရွက်ရေး အေဂျင်စီဒါရိုက်တာအဖွဲ့အား သမ္မတရုံးဝန်ကြီးဌာန(၃)၊ ပြည်ထောင်စုဝန်ကြီးမှ ဥက္ကဋ္ဌအဖြစ်ဦးဆောင်၍အဖွဲ့ဝင်(၁၄)ဦးဖြင့်ဖွဲ့စည်းဆောင်ရွက်ခွင့်ပြုရန် သဘောတူကြသည်။ ဆောင်ရွက်ရန်၊ မွေးရေ+ကျေးလက်

7



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊၁/၁၀၀၀/မွေးရေကျေး(၄၂၀၆/၂၀၁၅)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ၊ ဇွန်လ ၂၄ ရက်

သို့
သက်ဆိုင်ရာသို့

အကြောင်းအရာ။ **ထောက်ခံချက်ပေးပို့ခြင်း**

Myanmar International Cooperation Agency– MICA သည် နိုင်ငံတော်သမ္မတရုံး၏ (၁၀-၆-၂၀၁၄) ရက်စွဲပါစာအမှတ်၊၁၄(၁)/၇/သမ္မတရုံး နှင့် ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၇-၇-၂၀၁၄) ရက်စွဲပါစာအမှတ်၊ ၁၈ /၂၅၇/အဖရ (၁၃/၂၀၁၄) များဖြင့် ဖွဲ့စည်းခွင့်ပြုထားသော အဖွဲ့အစည်းဖြစ်ကြောင်း ထောက်ခံပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
လှထွန်း ၊ ဒုတိယအမြဲတမ်းအတွင်းဝန်

လျှို့ဝှက်

နောက်ဆက်တွဲ(ဃ)



၄၄
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

၁၁၈၄၃
၁၇.၇.၁၄

စာအမှတ်၊ ၁၈ / ၂၅၇ / အဖရ (၁၃/ ၂၀၁၄)။
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၁၇ ရက်။

အ မှာ စာ

အကြောင်းအရာ။ မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ ကျေးလက်ဒေသဖွံ့ဖြိုးရေးမဟာဗျူဟာ (Rual Development Strategic Frame Work)နှင့်အညီ မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့ဖွဲ့စည်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။

၁။ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၃ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၃/၂၀၁၄) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

ပြည်ထောင်စုဝန်ကြီး
မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

၁၈။ မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ ကျေးလက်ဒေသဖွံ့ဖြိုးရေးမဟာဗျူဟာ (Rual Development Strategic Frame Work) နှင့်အညီ မြန်မာနိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့ဖွဲ့စည်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။

မွေးမြူရေးရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန၏ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၁၉ ရက် နေ့စွဲပါ အမှာစာ အမှတ်၊ ၁ / ၂၀၀ (ည) / နပတ / ၁၀၀၀ / ၁၇၈၂။

မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ ကျေးလက်ဒေသဖွံ့ဖြိုးရေးမဟာဗျူဟာ (Rual Development Strategic Frame Work) နှင့်အညီ မြန်မာ နိုင်ငံတကာ ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့ဖွဲ့စည်းဆောင်ရွက်ခွင့်ပြုရန် မူအရ သဘောတူကြသည်။

ဆောင်ရွက်ရန်၊
မွေးရေ+ကျေးလက်။

လျှို့ဝှက်

ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်- ကြို့ကုန်းနယ်မြေတွင် ငါးတင်ငါးချဆိပ်ခံတံတား၊ ငါးဈေး၊ အထောက်အကူပြုအဆောက်အဦးများ တည်ဆောက်ပြီး လုပ်ငန်းဆောင်ရွက်ရန်နှင့် လွှဲပြောင်းရန်အတွက် **Myanmar International Co-operation Agency (MICA)**နှင့် အောင်ဖြိုးမြတ် ကုမ္ပဏီလီမိတက် တို့အကြား ချုပ်ဆိုသည့် မြေငှားစာချုပ်

ဤမြေငှားစာချုပ်ကို ၂၀၁၆ခုနှစ်၊ လ ( ) ရက်နေ့တွင် နေပြည်တော်၌ အောက်ပါ အတိုင်းပြုလုပ်ချုပ်ဆိုကြသည်မှာ-

ဦးခင်မောင်မော်၊ **Chief Officer (Fishery Sector)**၊ ညွှန်ကြားရေးမှူးချုပ် (ငါးလုပ်ငန်းဦးစီးဌာန) နေပြည်တော်တွင် တည်ရှိသည့် **Myanmar International Co-operation Agency (MICA)** ကို ကိုယ်စားပြုသော (နောင်တွင် "မြေငှားရမ်းသူ" ဟုခေါ်တွင်စေပြီးယင်းစကားရပ်တွင်စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ် အရ သော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဥပဒေအရ လွှဲအပ်ခံရသူများနှင့် လုပ်ငန်းဆက်ခံခွင့်ရှိသူများပါ ပါဝင်သည်ဟု မှတ်ယူရမည်။)က တစ်ဖက်

နှင့်

ဦးမောင်မောင်စိုး၊ နိုင်ငံသားစိစစ်ရေး ကတ်ပြားအမှတ်၊ ၁၂/ဗတထ(နိုင်)၀၁၄၉၂၃ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်မှတ်ပုံတင် ဖွဲ့စည်းတည်ထောင်ထားသည့် အောင်ဖြိုးမြတ်ကုမ္ပဏီလီမိတက်၊ တိုက်(၆) အခန်း ၁၀၂၊ ညောင်တန်းအိမ်ရာ၊ ညောင်တန်းလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့ တွင် တည်ရှိသည့် အများနှင့်မသက်ဆိုင်သော မြန်မာကုမ္ပဏီ ဖြစ်သည့် (နောင်တွင် "မြေငှားချထားခြင်းခံရသူ" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊အဓိပ္ပါယ်အရသော်လည်းကောင်း၊ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ၎င်း၏ဥပဒေအရလွှဲအပ်ခြင်းခံရသူများ၊ ဆက်ခံခွင့်ရှိသူများနှင့်တရားဝင်ကိုယ်စားလှယ် များပါပါဝင်သည်ဟုမှတ်ယူရမည်။)က အခြားတစ်ဖက်တို့ချုပ်ဆိုကြပါသည်။

အပိုဒ် (၁) လုပ်ငန်းရည်ရွယ်ချက်

၁-၁ "မြေငှားရမ်းသူ" သည် ငှားရမ်းသည့်မြေကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်သူဖြစ်ကြောင်း ကိုယ်စားပြု အာမခံချက်ပေးသဖြင့်လည်းကောင်း၊

၂၂-၂ ဤမြေငှားစာချုပ်ပါ စည်းကမ်းချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုမိန့်ရရှိပြီးမှသာအတည်ဖြစ်စေရမည်။ ဤမြေငှားစာချုပ်ပါစည်းကမ်းချက်များကိုစာချုပ်ဝင်နှစ်ဖက်စလုံး၏တရားဝင်ကိုယ်စားလှယ်များက မိမိတို့ကိုယ်တိုင်ဖတ်ရှုသိရှိနားလည်ကြပြီးဖြစ်၍အောက်ပါအသိသက်သေများရှေ့မှောက်တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်၌ အထက်ပါ ၂၀၁၆ခုနှစ်၊ လ၊ ရက်နေ့တွင် တည်ပြုလက်မှတ်ရေးထိုးကြပါသည်။

"မြေငှားရမ်းသူ ၏ကိုယ်စား"

လက်မှတ် -
အမည် - ဦးခင်မောင်မော်
ရာထူး - **Chief Officer (Fishery Sector)**
**Myanmar International Co-operation Agency**
ညွှန်ကြားရေးမှူးချုပ်၊
(ငါးလုပ်ငန်းဦးစီးဌာန)
ဌာန - **Myanmar International Co-operation Agency**
လိပ်စာ - ရုံးအမှတ်(၃၆)၊ နေပြည်တော်
အပြည့်အစုံ

"မြေငှားချထားခြင်းခံရသူ၏ကိုယ်စား"

လက်မှတ် -
အမည် - ဦးမောင်မောင်စိုး
ရာထူး - မန်နေဂျင်းဒါရိုက်တာ
ကုမ္ပဏီအမည် - အောင်ဖြိုးမြတ်ကုမ္ပဏီ
လိပ်စာ - **(4 D)**၊ ၂၁၆-၂၂၂
အပြည့်အစုံ - ဗိုလ်မြတ်ထွန်းလမ်းစုံ
ပုဇွန်တောင်မြို့နယ်

အသိသက်သေများ

လက်မှတ် -
အမည် -
နိုင်ငံသား -
အမှတ်
ရာထူး -
နေရပ် -

လက်မှတ် -
အမည် - ဦးဝင်းနိုင်
နိုင်ငံသား - ၁၂/တမန(နိုင်)၀၅၆၇၈၅
အမှတ်
ရာထူး -
နေရပ် - အမှတ်-က၊ **10 A**၊သီရိမင်္ဂလာလမ်း၊ရွာမအရှေ့ရပ်ကွက်၊
အင်းစိန်မြို့နယ်

၁-၂ **"မြေငှားရမ်းသူ"**က ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်၊ ကြို့ကုန်းနယ်မြေရှိ ပူးတွဲ (၁)တွင် အနီရောင်ဖြင့် ဘောင်ခတ်ထားသော (၂.၀၆) ဧက အကျယ်အဝန်းရှိ မြေနေရာ (နောင်တွင် **"ငှားရမ်းသည့်မြေ"**ဟု ရည်ညွှန်းခေါ်ဆိုမည်)ကို ငှားရမ်းလိုသောဆန္ဒရှိပြီး၊ **"မြေငှားချထားခြင်းခံရသူ"** က အောက်တွင်ဆက်လက်ဖော်ပြမည့် စည်းမျဉ်း၊ စည်းကမ်းများနှင့် အညီ ငှားရမ်းသည့်မြေကို ငါးတင်ငါးချဆိပ်ခံတံတား၊ ငါးဈေး၊ အထောက်အကူပြု အဆောက်အဦများ တည်ဆောက်၍ **B.O.T** စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် အငှားရယူလိုသဖြင့် လည်းကောင်း၊ ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဘက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူ ချုပ်ဆိုကြပါသည်။

**အပိုဒ် (၂) ကိုယ်စားပြုခြင်းနှင့်အာမခံခြင်း**

၂ ဤမြေငှားစာချုပ်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် **"မြေငှားရမ်းသူ"**သည် ၎င်းငှားရမ်းသည့်မြေများကို ဥပဒေနှင့်အညီ တရားဝင်ပိုင်ဆိုင်ကြောင်းနှင့် **"မြေငှားချထားခြင်းခံရသူ"** သည် သက်ဆိုင်ရာဥပဒေများအရ ဤမြေငှားစာချုပ်ပါလုပ်ငန်းများကို လုပ်ပိုင်ခွင့်ရှိသောပုဂ္ဂိုလ်ဖြစ်ပြီး ဤမြေငှားစာချုပ်ကို ချုပ်ဆိုနိုင်ရန် ဥပဒေအရလုပ်ပိုင်ခွင့်ရှိသူ၊ အခွင့်အာဏာနှင့် စီးပွားရေးအရငွေရေးကြေးရေး ခိုင်မာတောင့်တင်းသူများ ဖြစ်ကြောင်း အာမခံ ကြပါသည်။

**အပိုဒ် (၃) ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၃ ဤမြေငှားစာချုပ်ပါစည်းကမ်းချက်၊ သတ်မှတ်ချက်များအတိုင်းလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

**အပိုဒ် (၄) လွှမ်းမိုးသည့် ဥပဒေ**

၄ ဤမြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများနှင့်အညီချုပ်ဆိုခြင်း၊ အဓိပ္ပါယ်ဖွင့်ဆိုခြင်းပြုသည်ဟု မှတ်ယူကြမည်။

### အပိုဒ် (၅) လုပ်ငန်းစမ်းသပ်ကာလ၊ မြေငှားရမ်းခြင်းကာလနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်း

၅-၁ ဤမြေငှားစာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ (၁)နှစ်အထိကာလကို လုပ်ငန်းပြုပြင်တည်ဆောက်မှု များပြုလုပ်ရန် လုပ်ငန်းစမ်းသပ်ကာလအဖြစ် သတ်မှတ်ပါသည်။

၅-၂ ဤမြေငှားစာချုပ်၏ မြေငှားရမ်းခြင်းကာလသည် စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ ကနဦးသက်တမ်း (၅၀) နှစ် **(ကနဦးသက်တမ်း)** ဖြစ်ရမည်။ ကနဦးသက်တမ်းကုန်ဆုံးပြီးနောက် ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် (၁၀) နှစ် (တစ်ဆယ်နှစ်)စီ၊ နောက်ထပ်(၂)ကြိမ်အထိ ငှားရမ်းကာလ သက်တမ်း တိုးမြှင့်နိုင်သည်။ **"မြေငှားချထားခြင်းခံရသူ"**သည် သက်တမ်းတိုးဆောင်ရွက်လိုပါက **"မြေငှားရမ်းသူ"** သို့ ကျရောက်ဆဲ စာချုပ်သက်တမ်းမကုန်ဆုံးမီ (၆)လ ကြိုတင်၍ စာဖြင့်အကြောင်းကြားရမည်။

၅-၃ မြေငှားရမ်းခြင်း၊ မြေငှားရမ်းကာလနှင့် ငှားရမ်းကာလတိုးမြှင့် ဆောင်ရွက်ခြင်းတို့သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

### အပိုဒ် (၆) စာချုပ် အကျိုးသက်ရောက်သည့်နေ့

၆ ဤမြေငှားစာချုပ်သည် ၂၀၁၆ခုနှစ် ၊ လ၊ ( ) ရက်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

### အပိုဒ် (၇) မြေငှားခများ၊ နောက်ကျဒဏ်ကြေးနှင့် မြေငှားခပေးချေခြင်း

၇-၁ **"မြေငှားချထားခြင်းခံရသူ"** သည် ငှားရမ်းသည့်မြေ (၂.၀၆)ဧက (၈၉၇၃၃.၆၀စတုရန်းပေ) အတွက် (၁) စတုရန်း ပေလျှင် (၅၅၀) ကျပ်နှုန်းဖြင့် နှစ်စဉ် မြေငှားခငွေကျပ်(၄၉၃၅၃၃၄၈၀) (ကျပ်လေးရာကိုးဆယ့်သုံးသိန်းငါးသောင်းသုံးထောင်လေးရာ့ရှစ်ဆယ်တိတိ/-)ကို နှစ်စဉ် ဧပြီလ၏ ပထမ(၇)ရက် အတွင်း **"မြေငှားရမ်းသူ"** သို့ အပြေအကြေ ကြိုတင်ပေးချရမည်။ **"မြေငှားချထားခြင်း ခံရသူ"**သည် စာချုပ်ချုပ်ဆိုပြီးနောက် လုပ်ငန်းဆက်လက်လုပ်ကိုင်လိုခြင်းမရှိပါက ကျရောက်ဆဲစာချုပ်သက်တမ်း ကာလအတွက် မြေငှားခများကို အပြေအကြေပေးသွင်း ရမည်။

၇-၂ **"မြေငှားချထားခြင်းခံရသူ"** သည် ကနဦးသက်တမ်း (၅၀) နှစ် လုပ်ကိုင်လျှင်သော်လည်းကောင်း၊ ကနဦးသက်တမ်း (၅၀) နှစ် လုပ်ကိုင်ပြီးစီး၍ သက်တမ်းတိုး ပထမ (၁၀) နှစ်

